ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ ၀၈၃/၂၀၁၈ ၂၀၁၈ ခုနှစ် ဇွန်လ ၄ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၅ ပုဒ်မခွဲ(ဂ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူအမည် ဦးဖေလှိုင်

(၂) နိုင်ငံသား မြန်မာ

(၃) နေရပ်လိပ်စာ အမှတ် ၂၆၊ မဟာဗေယျလမ်း၊ ရေကျော်ရပ်ကွက်၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့

(၄) ပင်မအဖွဲ့အစည်းအမည်နှင့် လိပ်စာ -

(၅) ဖွဲ့စည်းရာအရပ် -

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား နိုင်ငံတကာအဆင့်မီ အနောက်တိုင်းဆေးဝါး အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) မြေကွက်အမှတ်- ၂၄၊ ၂၈၊ ၂၉၊ ၃၀၊ ၃၁ အေ၊ ၃၁ ဘီ၊ မြေတိုင်းရပ်ကွက်အမှတ်- ၁၈၊ ကနောင်မင်းသားကြီးလမ်း၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိမြေဧရိယာ ၂.၇၅၇ ဧက

(၈) နိုင်ငံခြားမတည်ငွေရင်း ပမာဏ -

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ -

(၁၀) စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်) ၃၃၆၀.၄၅ သန်း (အမေရိကန်ဒေါ်လာ ၁.၈၃ သန်း အပါအဝင် စုစုပေါင်းကျပ်သန်း သုံးထောင့် သုံးရာ ခြောက်ဆယ်နှင့် လေးသိန်း ငါးသောင်းခန့်)

(၁၁) တည်ဆောက်မှု/ ပြင်ဆင်မှုကာလ -

(၁၂) ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း -

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည် SI LVER SHINE INTERNATIONAL COMPANY LIMITED (ဆေး(လ်)ဗားရှိုင်း အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက်)

(မှတ်ချက်။ ဤအမိန့်သည် ၂၀၁၃ ခုနှစ် ဇွန်လ ၁၇ ရက်နေ့တွင် ယာယီခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ အကျိုးသက်ရောက်သည်။)

ဒေါက်တာသန်းမြင့်
ဒုတိယဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၀၁-၆၅၈၁၂၈

🖷 ၀၁-၆၅၈၁၄၁

စာအမှတ်၊မရက- ၃/မ-၁၃၁၂/၂၀၁၈ ( ၂၈၀ )

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဇွန်လ ၄ ရက်

အကြောင်းအရာ။ **Silver Shine International Company Limited (ဆေး(လ်)ဗားရှိုင်း အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်) ၏ နိုင်ငံတကာအဆင့်မီ အနောက်တိုင်းဆေးဝါး အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း အဆိုပြုချက်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်**

၁။ Silver Shine International Company Limited (ဆေး(လ်)ဗားရှိုင်း အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်) သည် မြေကွက်အမှတ်- ၂၄၊ ၂၈၊ ၂၉၊ ၃၀၊ ၃၁ အေ၊ ၃၁ဘီ၊ မြေတိုင်းရပ်ကွက်အမှတ်-၁၈၊ ကနောင်မင်းသားကြီးလမ်း၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၂.၇၅၇ ဧကတွင် နိုင်ငံတကာအဆင့်မီ အနောက်တိုင်းဆေးဝါး အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းအား ၂၀၁၃ ခုနှစ် ဇွန်လ ၁၂ ရက်နေ့တွင် ကျင်းပ ပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၆/၂၀၁၃) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြု ကြောင်းဆုံးဖြတ်ခဲ့ပါသည်။

၂။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် ၂၀၁၃ ခုနှစ် ဇွန်လ ၁၇ ရက်နေ့တွင် ယာယီခွင့်ပြုမိန့်အမှတ်၊ မနသ-၀၀၄/၂၀၁၃(ယာယီ)ဖြင့် Silver Shine International Company Limited (ဆေး(လ်)ဗားရှိုင်း အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်)အား တည်ဆောက်ရေးလုပ်ငန်းများကြိုတင် ဆောင်ရွက်နိုင်ရန်အတွက် ယာယီခွင့်ပြုမိန့်ထုတ်ပေးခဲ့ပါသည်။ ကုမ္ပဏီမှ တည်ဆောက်ရေးလုပ်ငန်းများ ပြီးစီးကြောင်း တင်ပြလာခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၈ ခုနှစ် မေလ ၁၂ရက်နေ့တွင် ကျင်းပပြုလုပ်သည့် (၆/၂၀၁၈) ကြိမ်မြောက် အစည်းအဝေးမှ ခွင့်ပြုမိန့်(မူရင်း) ထုတ်ပေးရန်ဆုံးဖြတ်ခဲ့ပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နည်းဥပဒေကိုကျင့်သုံးလျက် Silver Shine International Company Limited (ဆေး(လ်)ဗားရှိုင်း အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်) အားနိုင်ငံတကာ အဆင့်မီ အနောက်တိုင်း ဆေးဝါးအမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက် နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ ၀၈၃/၂၀၁၈ ကို ထုတ်ပေးလိုက်သည်။ ဤအမိန့်သည် ၂၀၁၃ ခုနှစ် ဇွန် လ ၁၇ ရက်နေ့တွင် ယာယီ ခွင့်ပြုမိန့်ထုတ်ပေးသည့်နေ့မှစ၍ အကျိုးသက်ရောက်သည်။

၃။ Silver Shine International Company Limited (ဆေး(လ်)ဗားရှိုင်း အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါ

ကန့်သတ်

အချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) Silver Shine International Company Limited (ဆေး(လ်)ဗားရှိုင်း အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ နိုင်ငံတကာအဆင့်မီအနောက်တိုင်းဆေးဝါးအမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၇၃ နှင့် နည်းဥပဒေ အပိုဒ် ၂၂၄ တွင် ဖော်ပြပါရှိသည့်အတိုင်း ယခင် ခွင့်ပြုမိန့်ပါ စည်းကမ်းချက်များနှင့် အညီ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ်စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ပထမ (၃) နှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန် နှင့် ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ရရှိပါသည်။

(ခ) Silver Shine International Company Limited (ဆေး(လ်)ဗားရှိုင်း အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ **ထုတ်လုပ်မှု ရည်မှန်းချက်များကိုအနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

(ဂ) Silver Shine International Company Limited (ဆေး(လ်)ဗားရှိုင်း အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်) အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၆၅ နှင့် နည်းဥပဒေအခန်း (၂၈) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

(ဃ) Silver Shine International Company Limited (ဆေး(လ်)ဗားရှိုင်း အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

(င) Silver Shine International Company Limited (ဆေး(လ်)ဗားရှိုင်း အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မီးဘေးအန္တရာယ်မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေးစနစ်များကို ဝန်ခံကတိပြု ထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီးမီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျ လိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊

မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကိုဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများ အသုံးပြုတတ်စေရန်အတွက် သင်တန်းများပေးရမည်။

(စ) Silver Shine International Company Limited (ဆေး(လ်)ဗားရှိုင်း အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ် တစ်ဦးဦး သို့တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် လုပ်ငန်း လွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(ဆ) Silver Shine International Company Limited (ဆေး(လ်)ဗားရှိုင်း အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၆ အရ နှစ်စဉ်ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ် အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး ၏ဝက်(ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဇ) Silver Shine International Company Limited (ဆေး(လ်)ဗားရှိုင်း အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်း ဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင်တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၄။ Silver Shine International Company Limited (ဆေး(လ်)ဗားရှိုင်း အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်)သည် လုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စု ဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင်သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်းစာချုပ်ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များ နှင့်အညီဆောင်ရွက်ပြီး မိတ္တူ (၅)စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

(ဒေါက်တာသန်းမြင့်)
ဒုတိယဥက္ကဋ္ဌ

Silver Shine International Company Limited
(ဆေး(လ်)ဗားရှိုင်း အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်)

**ဖြန့်ဝေခြင်း**

ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စု အစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများ မော်ကွန်းတိုက်ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆေးဝါးလုပ်ငန်း
ရန်ကုန်တိုင်းဒေသကြီးဦးစီးမှူးရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၃/မ-၁၃၁၂/၂၀၁၈(၁၇၂)

ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဧပြီလ ၁၂ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **Silver Shine International Company Limited ၏ လုပ်ငန်းဆောင်ရွက်နေမှုနှင့်စပ်လျဉ်း၍ စက်မှုဝန်ကြီးဌာနမှ ညှိနှိုင်းအကြောင်းကြားလာခြင်းအပေါ် ကော်မရှင်မှဦးဆောင်၍ ကွင်းဆင်းစစ်ဆေးခဲ့သည့် အစီရင်ခံစာအား တင်ပြခြင်း ကိစ္စ**

၁။ Silver Shine International Company Limited ၏ လုပ်ငန်းဆောင်ရွက်နေမှုနှင့်စပ်လျဉ်း၍ စက်မှုဝန်ကြီးဌာနမှ ညှိနှိုင်းအကြောင်းကြားလာခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၈ ခုနှစ် မတ်လ ၂၀ ရက်နေ့တွင် ကျင်းပပြုလုပ်သော ၄/၂၀၁၈ ကြိမ်မြောက် အစည်းအဝေးမှ ကွင်းဆင်းစစ်ဆေးရန်ဆုံးဖြတ်ခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ စီမံကိန်းနှင့် ဘဏ္ဍာရေး ဝန်ကြီးဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန၏ ၂၀၁၈ခုနှစ် မတ်လ ၂၈ ရက် နေ့စွဲပါ ရုံးတွင်းအမိန့်စာအမှတ်၊ ၁၀၀/၂၀၁၈ အရ ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ ဖွဲ့စည်းခဲ့ပြီး ၂၀၁၈ ခုနှစ်၊ မတ်လ ၂၉ ရက်နေ့တွင် ဆေးဝါးစက်ရုံ၏ လုပ်ငန်းဆောင်ရွက်မှု အခြေအနေများအား ကော်မရှင်အဖွဲ့ဝင် ဦးအေးလွင် ဦးဆောင်၍ ကွင်းဆင်းစစ်ဆေးခဲ့သည့် အစီရင်ခံစာအား ပူးတွဲ ဖော်ပြအပ်ပါသည်။ **(နောက်ဆက်တွဲ-က)**

၃။ **သက်ဆိုင်ရာဌာနများ၏ လိုင်စင်နှင့် ခွင့်ပြုမိန့်များအားရယူထားခြင်းရှိ-မရှိနှင့် FDA ၏ ခွင့်ပြုချက်ရရှိထားခြင်းမရှိသည့် ဆေးဝါးများထုတ်လုပ်နေမှုရှိ-မရှိနှင့်စပ်လျဉ်း၍** ကွင်းဆင်းစစ်ဆေးရေး အဖွဲ့ဝင်များမှ အောက်ပါအတိုင်းစစ်ဆေးတွေ့ရှိရပါသည်-

(က) **မြန်မာ့ဆေးဝါးလုပ်ငန်းမှ** ကွင်းဆင်းစစ်ဆေးချိန်တွင် FDA မှ ဆေးဝါးမှတ်ပုံတင် ခွင့်ပြုချက်ရရှိထားသော Milk of Magnesia Tablet နှင့် Electrolyte Beverage Sacket များထုတ်လုပ်လျက်ရှိကြောင်း၊ အစားအသောက်နှင့်ဆေးဝါး ကွပ်ကဲရေး ဦးစီးဌာန(FDA) မှ လိုင်စင်ခွင့်ပြုချက်မရသေးသည့် ၂၀၁၇ခုနှစ် မေလ ၂၆ ရက်စွဲ ဖြင့်ဖော်ပြထားသော Parashine Tablet ၏ Quality Control Certificate ကိုတွေ့ရှိရပါကြောင်း၊ ၎င်းကိစ္စနှင့်ပတ်သက်၍ စက်ရုံတာဝန်ရှိသူများအား မေးမြန်းရာအဆိုပါ Tablet ပေါ်တွင် Paracetamol 500 mg စာသားရိုက်နှိပ်ထားသည့် အတွက် BPI ဆေးပြားနှင့် လုံးဝမတူပါကြောင်း၊ စွန့်ပစ်ရေတွင် ပျော်ဝင်နေသည့် ပစ္စည်းများစစ်ယူမည့် လုပ်ငန်းစဉ်တွင် ရေဆိုးသန့်စင်မှုစနစ် တပ်ဆင်ရန် လိုအပ်ကြောင်း စိစစ်တင်ပြထားပါသည်။

(ခ) **အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာနမှ** ဆေးဝါးထုတ်လုပ်ခြင်းတွင် Batch Master Record ထားရှိပြီး one batch လျှင် Milk of Magnesia Tablet ၃သိန်းဖြသောင်းနှင့် Paragesic Tablet ၂သိန်း ထုတ်လုပ်နိုင်ကြောင်းနှင့် စက်ရုံကို စစ်ဆေးချိန်တွင် FDA မှ ဆေးဝါးမှတ်ပုံတင် ခွင့်ပြုချက်ရရှိထားသော Milk of Magnesia Tablet ကို ထုတ်လုပ်နေကြောင်းစိစစ်တင်ပြထားပါသည်။

(ဂ) **စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနမှ** ပုဂ္ဂလိကစက်မှုမှတ်ပုံတင်ခွင့်ပြုနိုင်ရန်အတွက် ပြည်ထောင်စုဝန်ကြီး၏ ညွှန်ကြားချက်များအနက် ၂၉-၃-၂၀၁၈ ရက်နေ့တွင် ထုတ်လုပ်သည့် ဆေးဝါးများ၏ Trade Mark နှင့် Design ပုံစံများ ရရှိခဲ့ပြီးဖြစ်ကြောင်းနှင့် ပုဂ္ဂလိကစက်မှုမှတ်ပုံတင် ခွင့်ပြုနိုင်ရန် ဆက်လက်တင်ပြဆောင်ရွက် သွားမည်ဖြစ်ပါကြောင်း စိစစ်တင်ပြထားပါသည်။

(ဃ) စက်ရုံ၏ GMP Guideline/ Technical ပိုင်းနှင့် QC/ QA လုပ်ငန်းပိုင်း ဆိုင်ရာများသည် FDA ၏ လုပ်ငန်းတာဝန်များဖြစ်ပါကြောင်း ကွင်းဆင်းစစ်ဆေးရေးအဖွဲ့မှသုံးသပ်ရသည့်အတွက် FDA မှ ၎င်း၏ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်စိစစ်ဆောင်ရွက်သွားရန်ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၄။ ဆေးဝါးထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်နေမှု အခြေအနေနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်းသုံးသပ်တင်ပြအပ်ပါသည်-

(က) ကုမ္ပဏီသည် ကော်မရှင်၏ ယာယီခွင့်ပြုမိန့်ဖြင့် FDA မှ ခွင့်ပြုချက်ရရှိပြီးသည့် ဆေးဝါး ၂ မျိုးအား ထုတ်လုပ်လျက်ရှိပြီး လုပ်ငန်းစီးပွားဖြစ် လည်ပတ်နိုင်ရန်အတွက် ပုဂ္ဂလိက စက်မှုလုပ်ငန်းမှတ်ပုံတင် လျှောက်ထားတင်ပြဆဲဖြစ်ပါသည်။

(ခ) စက်မှုဝန်ကြီးဌာနမှ အကြောင်းကြားစာတွင် ဖော်ပြပါရှိသည့် **စက်ရုံအဟောင်း၌ ဆေးဝါး ထုတ်လုပ်နေမှုနှင့်စပ်လျဉ်း၍ စိစစ်ရာတွင် ၎င်းစက်ရုံတွင် စက်အဟောင်း Tableting Machine (၁၀) လုံးအား အသုံးမပြုဘဲ သေချာစွာထိန်းသိမ်းထားရှိပြီး ၎င်းစက်များအား မသမာသူလက်ထဲရောက်ရှိသွားပါက မူးယစ်ဆေးဝါးများ နှင့် ပတ်သက်သော ပြဿနာများ ဖြစ်ပေါ်လာနိုင်သည့်အတွက် ထိန်းသိမ်းထားခြင်း ဖြစ်ကြောင်း** သုံးသပ်တွေ့ရှိရပါသည်။

(ဂ) ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ဝင် မြန်မာ့ဆေးဝါးလုပ်ငန်းမှ ကိုယ်စားလှယ်၏ စစ်ဆေးတွေ့ရှိချက်တွင်ပါရှိသည့် Parashine Tablet ၏ Quality Control Certificate တွေ့ရှိရခြင်းနှင့်စပ်လျဉ်း၍ စိစစ်ရာ၌ မူလ ကော်မရှင်သို့ အဆိုပြုခဲ့သည့် ဆေးဝါး ၃၄ မျိုးစာရင်းတွင်ပါရှိသည့် ဆေးဝါးဖြစ်ပြီး၊ **အဆိုပါ Parashine Tablet အား အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေး ဦးစီးဌာန (FDA) သို့ ဆေးဝါးမှတ်ပုံတင် လက်မှတ်လျှောက်ထားရန်နှင့်** ၎င်းဆေးပြားပေါ်၌ Paracetamol 500 mg

**ရိုက်နှိပ်ထားသည့်အတွက် BPI ဆေးပြားနှင့် လုံးဝတူညီမှုမရှိပါကြောင်း သုံးသပ်တွေ့ရှိရပါသည်။**

၅။ စက်မှုဝန်ကြီးဌာနမှ ၂၀၁၈ ခုနှစ် ဧပြီလ ၂ ရက်စွဲပါစာဖြင့် Silver Shine International Co., Ltd. ၏ ဆေးဝါးထုတ်လုပ်ရေးအပေါ် ကိုယ်စားလှယ် အဖွဲ့ဝင် များမှ ကွင်းဆင်း စစ်ဆေးတွေ့ရှိမှုအခြေအနေအား ထပ်မံပေးပို့လာပြီးအဆိုပါစာ၌ FDAခွင့်ပြုချက်မရှိပဲ BPI ဆေးနှင့်ပုံစံတူသည့် Parashine Tablet ထုတ်လုပ်ထားသည့် ဓါတ်ခွဲခန်းအထောက်အထားတွေ့ရှိရပါ ကြောင်း၊ ဆေးဝါးရိုက်စက်အဟောင်း(Tableting Machine) ၁၀ လုံးကို အခန်းတစ်ခုအတွင်း ပလတ်စတစ်အုပ်၍သိမ်းဆည်းထားသော်လည်း အဆိုပါစက်များမှမည်သည့် ဆေးဝါးမဆိုအသင့် ထုတ်လုပ်နိုင်သည့် အခြေအနေရှိကြောင်း ထပ်မံပေးပို့ အကြောင်းကြားလာပါသည်။ **(နောက်ဆက်တွဲ-ခ)**

၆။ ၂၀၁၈ခုနှစ် ဧပြီလ ၁၂ ရက်နေ့တွင် ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ဝင်များသည် Silver Shine International Co., Ltd. နှင့် ထပ်မံတွေ့ဆုံ၍ ကွင်းဆင်းစစ်ဆေးတွေ့ရှိချက်များအပေါ် မေးမြန်းခဲ့ရာကုမ္ပဏီတာဝန်ရှိသူက Parashine Tablet အား FDA သို့ တင်ပြရန် သုတေသနပြု ထုတ်လုပ်ထားခြင်းဖြစ်ကြောင်း၊ စက်အဟောင်း Tableting Machine (၁၀)လုံးကိုလည်းအသုံး ပြုခြင်းမရှိဘဲ သေချာစွာထိန်းသိမ်းထားရှိပါကြောင်း ပြန်လည်ရှင်းလင်းခဲ့ပါသည်။ **(နောက်ဆက်တွဲ-ဂ)**

**ဆုံးဖြတ်ရန်အချက်**

၇။ Silver Shine International Co., Ltd. ၏ ဆေးဝါး ထုတ်လုပ်နေမှုနှင့်စပ်လျဉ်း၍ ကော်မရှင်မှဦးဆောင်ကာ သက်ဆိုင်ရာဌာနကိုယ်စားလှယ်များနှင့်ကွင်းဆင်းစစ်ဆေးခဲ့ရာ FDA ၏ ခွင့်ပြုချက် ရရှိထားခြင်းမရှိသည့် ဆေးဝါးများထုတ်လုပ်ရောင်းချနေမှု မရှိပါကြောင်းစစ်ဆေးတွေ့ရှိရသည့်အတွက် FDA ၏ခွင့်ပြုလိုင်စင်ရရှိပြီးဖြစ်သော Milk of Magnesia Tablet နှင့် Paragesic Tablet ဆေးဝါး(၂)မျိုးကို ထုတ်လုပ်ခွင့်ပြုရန်၊ ကော်မရှင်၏ ခွင့်ပြုမိန့် (မူရင်း) ထုတ်ပေးရန် နှင့် လုပ်ငန်းဆက်လက် ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

(နောက်ဆက်တွဲ-က)

**စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန**
**ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန**
**ကွင်းဆင်းစစ်ဆေးချက်အစီရင်ခံစာ**

**နိဒါန်း**

၁။ Silver Shine International Company Limited ၏ လုပ်ငန်းဆောင်ရွက်နေမှုနှင့် စပ်လျဉ်း၍ စက်မှုဝန်ကြီးဌာနမှ ညှိနှိုင်းအကြောင်းကြားလာခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၈ ခုနှစ် မတ်လ၂၀ရက်နေ့တွင် ကျင်းပပြုလုပ်သော ၄/၂၀၁၈ ကြိမ်မြောက် အစည်းအဝေးမှ ကွင်းဆင်းစစ်ဆေးရန် ဆုံးဖြတ်ခဲ့ပါသည်။ သို့ဖြစ်ပါ၍ စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၏ ၂၀၁၈ ခုနှစ် မတ်လ ၂၈ ရက်နေ့စွဲပါ ရုံးတွင်းအမိန့်စာအမှတ်၊ ၁၀၀/၂၀၁၈အရ ကွင်းဆင်းစစ်ဆေးရေး အဖွဲ့ ဖွဲ့စည်းခဲ့ပြီး ၂၀၁၈ခုနှစ်၊ မတ်လ ၂၉ ရက်နေ့တွင် ဆေးဝါးစက်ရုံ၏ လုပ်ငန်းဆောင်ရွက်မှု အခြေအနေ များအား ကွင်းဆင်းစစ်ဆေးခဲ့ပါသည်။

**ရည်ရွယ်ချက်**

၂။ ကွင်းဆင်းစစ်ဆေးရေးအဖွဲ့အနေဖြင့် အောက်ပါအချက်အလက်များအပေါ်အခြေခံ၍ စစ်ဆေးမှုများပြုလုပ်ခဲ့ပါသည်-

(က) ကုမ္ပဏီ၏ဆေးဝါးထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်နေမှုအခြေအနေအားစစ်ဆေးရန်။

(ခ) သက်ဆိုင်ရာဌာနများ၏ လိုင်စင်နှင့် ခွင့်ပြုမိန့်များအားရယူထားခြင်းရှိ-မရှိစစ်ဆေးရန်။

(ဂ) FDA ၏ ခွင့်ပြုချက်ရရှိထားခြင်းမရှိသည့် ဆေးဝါးများထုတ်လုပ်နေမှုရှိ-မရှိ စစ်ဆေးရန်။

(ဃ) ရင်းနှီးမြှုပ်နှံမှုထည့်ဝင်မှု၊ စက်ပစ္စည်းများတပ်ဆင်ထားမှု၊ အလုပ်သမားခန့်ထားမှု အခြေအနေများစစ်ဆေးရန်။

(င) ပတ်ဝန်းကျင် ထိခိုက်မှုမရှိစေရေး ဆောင်ရွက်ထားရှိမှုအခြေအနေနှင့် အခြားလိုအပ်သော အချက်များကိုပါထည့်သွင်းစစ်ဆေးရန်။

**ကွင်းဆင်းစစ်ဆေးရေးအဖွဲ့**

၃။ ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ဝင်များမှာအောက်ဖော်ပြပါအတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| (က) | ဦးအေးလွင်<br>အဖွဲ့ဝင်<br>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် | အဖွဲ့ခေါင်းဆောင် |
| (ခ) | ဒေါက်တာအောင်ငွေဦး<br>အထွေထွေမန်နေဂျာ<br>မြန်မာ့ဆေးဝါးလုပ်ငန်း | အဖွဲ့ဝင် |
| (ဂ) | ဦးကျော်ဇေယျ<br>ညွှန်ကြားရေးမှူး<br>စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန<br>ရန်ကုန်တိုင်းဒေသကြီး | အဖွဲ့ဝင် |

(ဃ) ဒေါ်သီမွန်ချိန် အဖွဲ့ဝင်
ဦးစီးအရာရှိ
အစားအသောက်နှင့် ဆေးဝါးကွပ်ကဲမှုဦးစီးဌာန
ရန်ကုန်တိုင်းဒေသကြီး

(င) ဦးစိုးမြင့်အောင် အတွင်းရေးမှူး
ညွှန်ကြားရေးမှူး
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

**စစ်ဆေးရေးအဖွဲ့၏စစ်ဆေးတွေ့ရှိချက်များ**

၄။ **သက်ဆိုင်ရာဌာနများ၏ လိုင်စင်နှင့် ခွင့်ပြုမိန့်များအားရယူထားခြင်းရှိ-မရှိနှင့် FDA ၏ ခွင့်ပြုချက်ရရှိထားခြင်းမရှိသည့် ဆေးဝါးများထုတ်လုပ်နေမှုရှိ-မရှိ**နှင့်စပ်လျဉ်း၍ ကွင်းဆင်း စစ်ဆေးရေး အဖွဲ့ဝင်များမှ အောက်ပါအတိုင်းစစ်ဆေးတွေ့ရှိရပါသည်-

(က) **မြန်မာ့ဆေးဝါးလုပ်ငန်း**မှ ကွင်းဆင်းစစ်ဆေးချိန်တွင် FDA မှ ဆေးဝါးမှတ်ပုံတင် ခွင့်ပြုချက်ရရှိထားသော Milk of Magnesia Tablet နှင့် Electrolyte Beverage Sacket များထုတ်လုပ်လျက်ရှိကြောင်း၊ အစားအသောက်နှင့်ဆေးဝါး ကွပ်ကဲရေးဦးစီး ဌာန(FDA) မှ လိုင်စင်ခွင့်ပြုချက်မရသေးသည့် ၂၀၁၇ခုနှစ် မေလ ၂၆ ရက်စွဲဖြင့် ဖော်ပြ ထားသော Parashine Tablet ၏ Quality Control Certificate ကိုတွေ့ရှိရ ပါကြောင်း၊ ၎င်းကိစ္စနှင့်ပတ်သက်၍ စက်ရုံတာဝန်ရှိသူများအား မေးမြန်းရာ အဆိုပါ Tablet ပေါ်တွင် Paracetamol 500 mg စာသားရိုက်နှိပ်ထားသည့်အတွက် BPI ဆေးပြားနှင့် လုံးဝမတူပါကြောင်း တွေ့ရှိရပါသည်။ စွန့်ပစ်ရေတွင် ပျော်ဝင်နေသည့် ပစ္စည်းများ စစ်ယူမည့် လုပ်ငန်းစဉ်တွင် ရေဆိုးသန့်စင်မှုစနစ်တပ်ဆင်ရန် လိုအပ်ကြောင်း စိစစ်တင်ပြထားပါသည်။

(ခ) **အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာန**မှ ဆေးဝါးထုတ်လုပ်ခြင်းတွင် Batch Master Record ထားရှိပြီး one batch လျှင် Milk of Magnesia Tablet ၃သိန်း၆သောင်းနှင့် Paragesic Tablet ၂သိန်း ထုတ်လုပ်နိုင်ကြောင်းနှင့် စက်ရုံကို စစ်ဆေးချိန်တွင် FDA မှ ဆေးဝါးမှတ်ပုံတင် ခွင့်ပြုချက်ရရှိထားသော Milk of Magnesia Tablet ကို ထုတ်လုပ်နေကြောင်းစိစစ်တင်ပြထားပါသည်။

(ဂ) **စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန**မှ ပုဂ္ဂလိကစက်မှုမှတ်ပုံတင် ခွင့်ပြုနိုင်ရန် အတွက် ပြည်ထောင်စုဝန်ကြီး၏ ညွှန်ကြားချက်များအနက် ၂၉-၃-၂၀၁၈ ရက်နေ့တွင် ထုတ်လုပ်သည့် ဆေးဝါးများ၏ Trade Mark နှင့် Design ပုံစံများရရှိခဲ့ပြီး ဖြစ်ကြောင်း နှင့် ပုဂ္ဂလိကစက်မှုမှတ်ပုံတင် ခွင့်ပြုနိုင်ရန် ဆက်လက်တင်ပြ ဆောင်ရွက် သွားမည်ဖြစ်ပါ ကြောင်း စိစစ်တင်ပြထားပါသည်။

(ဃ) စက်ရုံ၏ GMP Guideline/ Technical ပိုင်းနှင့် QC/ QA လုပ်ငန်းပိုင်း ဆိုင်ရာများသည် FDA ၏ လုပ်ငန်းတာဝန်များဖြစ်ပါကြောင်း ကွင်းဆင်းစစ်ဆေးရေး

အဖွဲ့မှ သုံးသပ်ရသည့်အတွက် FDA မှ ၎င်း၏ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်စိစစ်ဆောင်ရွက်သွားရန် ဖြစ်ပါသည်။

၅။ **လုပ်ငန်းဆောင်ရွက်နေမှု၊ ရင်းနှီးမြှုပ်နှံမှုထည့်ဝင်မှု၊ အလုပ်သမားခန့်ထားမှုတို့နှင့်** စပ်လျဉ်း၍ အောက်ပါအတိုင်း စစ်ဆေးတွေ့ရှိရပါသည်-

(က) ကော်မရှင်မှ ရင်းနှီးမြှုပ်နှံမှုတိုးမြှင့်၍ တင်သွင်းခွင့်ပြုခဲ့သည့် စက်ပစ္စည်းနှင့် လုပ်ငန်းသုံးပစ္စည်းများတန်ဖိုး အမေရိကန်ဒေါ်လာ ၁,၇၆၈,၈၈၆.၅၇ အနက်မှ အမေရိကန်ဒေါ်လာ ၁,၅၀၁,၈၈၁.၃၄ အား တင်သွင်းခွင့်ပြုခဲ့ပြီးဖြစ်ပါသဖြင့် စက် ပစ္စည်း ၈၄ % ခန့် တင်သွင်းခဲ့ပြီး အမေရိကန်ဒေါ်လာ ၂၆၇,၀၀၅.၂၃ တင်သွင်းရန် ကျန်ရှိပါသည်။

(ခ) အဆိုပြုတင်ပြခဲ့စဉ်ကဖော်ပြခဲ့သည့် ဝန်ထမ်းအင်အား(၁၇၁)ဦးအနက်(၆၂)ဦးခန့် အပ်ပြီးဖြစ်ပါသည်။

၆။ **သက်ဆိုင်ရာဌာနများ၏ လိုင်စင်နှင့် ခွင့်ပြုမိန့်များအား ရယူထားခြင်းရှိ-မရှိ**နှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) Silver Shine International Company Limited သည် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ ယာယီ ခွင့်ပြုမိန့်အမှတ် မနသ-၀၀၄/၂၀၁၃ (၁၇-၆-၂၀၁၃) ဖြင့် ယာယီခွင့်ပြုမိန့် ရရှိထားပါသည်။

(ခ) ၂၀၁၈ ခုနှစ် မတ်လ ၁၉ ရက်နေ့ ရက်စွဲဖြင့် FDA မှ ဆေးဝါး ထုတ်လုပ်ခွင့်လိုင်စင်ရရှိထားပါသည်။

(ဂ) ၂၀၁၇ခုနှစ်စက်တင်ဘာလ၂၂ရက်နေ့ ရက်စွဲဖြင့် FDA မှ Paragesic နှင့် SSI M.O.M ဆေး၂မျိုးအတွက် ဆေးဝါးမှတ်ပုံတင် လက်မှတ်ရရှိထားပါသည်။

(ဃ) ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏ လုပ်ငန်းလိုင်စင် (၂၀၁၆-၂၀၁၇) နှင့် လျှပ်စစ်စစ်ဆေးရေးဌာန၏ အန္တရာယ်ကင်းရှင်းကြောင်းလက်မှတ်ရရှိထားပါသည်။

(င) စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနသို့ ပုဂ္ဂလိကစက်မှုလုပ်ငန်းမှတ်ပုံတင်လျှောက်ထားဆဲဖြစ်ကြောင်း သိရှိရပါသည်။

**သုံးသပ်တင်ပြချက်**

၇။ ဆေးဝါးထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်နေမှု အခြေအနေနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း သုံးသပ်တင်ပြအပ်ပါသည်-

(က) ကုမ္ပဏီသည် ကော်မရှင်၏ ယာယီခွင့်ပြုမိန့်ဖြင့် FDA မှ ခွင့်ပြုချက် ရရှိပြီးသည့် ဆေးဝါး ၂ မျိုးအား ထုတ်လုပ်လျက်ရှိပြီး လုပ်ငန်းစီးပွားဖြစ် လည်ပတ်နိုင်ရန်အတွက် ပုဂ္ဂလိက စက်မှုလုပ်ငန်းမှတ်ပုံတင် လျှောက်ထားတင်ပြဆဲဖြစ်ပါသည်။

(ခ) စက်မှုဝန်ကြီးဌာနမှ အကြောင်းကြားစာတွင် ဖော်ပြပါရှိသည့် **စက်ရုံအဟောင်း၌ ဆေးဝါးထုတ်လုပ်နေမှုနှင့်စပ်လျဉ်း၍ စိစစ်ရာတွင် ၎င်းစက်ရုံတွင် စက်အဟောင်း** Tableting **Machine (၁၀) လုံးအား အသုံးမပြုဘဲ သေချာစွာထိန်းသိမ်းထားရှိပြီး ၎င်းစက်များအား**

**မသမာသူလက်ထဲရောက်ရှိသွားပါက မူးယစ်ဆေးဝါးများ နှင့်ပတ်သက်သော ပြဿနာများ ဖြစ်ပေါ်လာနိုင်သည့်အတွက် ထိန်းသိမ်းထားခြင်းဖြစ်ကြောင်း** သုံးသပ်တွေ့ရှိရပါသည်။

(ဂ) ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ဝင် မြန်မာ့ဆေးဝါးလုပ်ငန်းမှ ကိုယ်စားလှယ်၏ စစ်ဆေးတွေ့ရှိချက်တွင်ပါရှိသည့် Parashine Tablet ၏ Quality Control Certificate တွေ့ရှိရခြင်းနှင့်စပ်လျဉ်း၍ စိစစ်ရာ၌ မူလ ကော်မရှင်သို့ အဆိုပြုခဲ့သည့် ဆေးဝါး ၃၄ မျိုးစာရင်းတွင်ပါရှိသည့် ဆေးဝါးဖြစ်ပြီး၊ **အဆိုပါ Parashine Tablet အား အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေး ဦးစီးဌာန (FDA)သို့ ဆေးဝါး မှတ်ပုံတင် လက်မှတ် လျှောက်ထားရန်နှင့် ၎င်းဆေးပြားပေါ်၌ Paracetamol 500 mg ရိုက်နှိပ်ထားသည့်အတွက် BPI ဆေးပြားနှင့် လုံးဝတူညီမှုမရှိပါကြောင်း** သုံးသပ်တွေ့ရှိရပါသည်။

၈။ ၂၀၁၈ခုနှစ် ဧပြီလ ၁၂ ရက်နေ့တွင် ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ဝင်များသည် Silver Shine International Company Limited နှင့် ထပ်မံတွေ့ဆုံ၍ ကွင်းဆင်း စစ်ဆေးတွေ့ရှိချက်များအပေါ် မေးမြန်းခဲ့ရာ ကုမ္ပဏီတာဝန်ရှိသူက Parashine Tablet ထုတ်လုပ်ထားခြင်းမှာ FDA သို့ တင်ပြရန် သုတေသနပြု ထုတ်လုပ်ထားခြင်းဖြစ်ကြောင်း၊ စက်အဟောင်း Tableting Machine (၁၀) လုံးကိုလည်း အသုံးပြုခြင်းမရှိဘဲ သေချာစွာထိန်းသိမ်းထားရှိပါကြောင်း ပြန်လည်ရှင်းလင်းခဲ့ပါသည်။

**နိဂုံး**

၉။ Silver Shine International Co., Ltd. ၏ ဆေးဝါး ထုတ်လုပ်နေမှုနှင့်စပ်လျဉ်း၍ ကော်မရှင်မှ ဦးဆောင်၍ သက်ဆိုင်ရာဌာနကိုယ်စားလှယ်များနှင့် ကွင်းဆင်းစစ်ဆေးပြီးဖြစ်ပါသဖြင့် စက်ရုံလုပ်ငန်းများဆက်လက်လည်ပတ်နိုင်ရေးအတွက် **အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေး ဦးစီးဌာန(FDA) ၏ခွင့်ပြုလိုင်စင်ရရှိပြီးဖြစ်သော ဆေးဝါး(၂)မျိုးကိုသာ ယာယီ အကန့်အသတ်ဖြင့် ထုတ်လုပ် ခွင့်ပြုသင့်ပါကြောင်း၊ စက်မှုဝန်ကြီးဌာနမှ စစ်ဆေးတွေ့ရှိရသည့်** Parashine Tablet **အား** FDA **ခွင့်ပြုချက်ရရှိပြီးမှသာ ထုတ်လုပ် ခွင့်ပြုသင့်ပါကြောင်း၊ ကုမ္ပဏီအနေဖြင့် ကော်မရှင်၏ ယာယီခွင့်ပြုမိန့်ပေးစဉ်က ကတိဝန်ခံချက်နှင့်အညီ လုပ်ငန်းများအား သတ်မှတ်စည်းမျဉ်း၊ စည်းကမ်း များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် လုပ်ငန်းလည်ပတ်မှုအား မကြာခဏ စစ်ဆေးကြပ်မတ် ဆောင်ရွက်သင့်ပါကြောင်း** အစီရင်ခံတင်ပြအပ်ပါ သည်။

Silver Shine International Company Limited ၏
ကွင်းဆင်းစစ်ဆေးချက်မှတ်တမ်းဓါတ်ပုံများ



Silver Shine International Company Limited မှ ရှင်းလင်းတင်ပြချက်အပေါ် ညှိနှိုင်းဆွေးနွေးခြင်း



Silver Shine International Company Limited ၏
လုပ်ငန်းဆောင်ရွက်မှုအခြေအနေအားလက်တွေ့စစ်ဆေးခြင်း

**စစ်ဆေးသူ(အဖွဲ့ခေါင်းဆောင်)**

လက်မှတ် -

အမည် - ဦးအေးလွင်
ရာထူး - အဖွဲ့ဝင်
ဌာန - မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**အတွင်းရေးမှူး**

လက်မှတ်-

အမည် - ဦးစိုးမြင့်အောင်
ရာထူး - ညွှန်ကြားရေးမှူး
ဌာန - ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

**အဖွဲ့ဝင်များ**

| | | | | | |
|---|---|---|---|---|---|
| လက်မှတ် | - | | လက်မှတ် | - | |
| အမည် | - | ဒေါက်တာအောင်ငွေဦး | အမည် | - | ဦးကျော်ဇေယျ |
| ရာထူး | - | အထွေထွေမန်နေဂျာ | ရာထူး | - | ညွှန်ကြားရေးမှူး |
| ဌာန | - | မြန်မာ့ဆေးဝါးလုပ်ငန်း စက်မှုဝန်ကြီးဌာန | ဌာန | - | စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေး ဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး စက်မှုဝန်ကြီးဌာန |

လက်မှတ် -

အမည် - ဒေါ်သီမွန်ချိန်

ရာထူး - ဦးစီးအရာရှိ

ဌာန - အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာန
ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာန

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၅၃-စမ(၁)၂၀၁၇-၂၀၁၈(၈၁၄၆)

ရက် စွဲ ၊ ၂၀၁၈ ခုနှစ်၊ ဧပြီလ ၂ ရက်

သို့

**ပြည်ထောင်စုဝန်ကြီး**

**စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန**

အကြောင်းအရာ။ **Silver Shine International Co., Ltd. ၏ ဆေးဝါးထုတ်လုပ်ရေးအပေါ် စစ်ဆေးတွေ့ရှိမှုအခြေအနေ ထပ်မံပေးပို့ခြင်းကိစ္စ**

ရည် ညွှန်း ချက်။ စက်မှုဝန်ကြီးဌာန၏ ၂၈.၂.၂၀၁၈ ရက်စွဲပါ စာအမှတ်၊ ၅၃-စမ(၁)၂၀၁၇-၂၀၁၈(၇၀၄၁)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုန်တွင် တည်ရှိသည့် Silver Shine International Co., Ltd. ၏ ဆေးဝါးထုတ်လုပ်ရေးစက်ရုံသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဖြင့် ၂၉.၃.၂၀၁၈ ရက်နေ့တွင် သွားရောက်စစ်ဆေးခဲ့ရာ စက်မှုဝန်ကြီးဌာနမှ ကိုယ်စားလှယ်(၂)ဦး ပါဝင်ခဲ့ပါသည်။

၂။ ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန၊ အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာန(FDA)၏ ခွင့်ပြုချက်မရှိဘဲ BPI ဆေးနှင့်ပုံစံတူ တုပထားသည့် Parashine Tablet (210000) ကို ၂၆.၅.၂၀၁၇ ရက်နေ့၌ ထုတ်လုပ်ထားသည့် အထောက်အထားအား ဓာတ်ခွဲခန်းစစ်ဆေးချက်ဖိုင် (QC Document)တွင် တွေ့ရှိခဲ့ပါသည်။ ၎င်းအထောက်အထားကို **နောက်ဆက်တွဲ(က)**ဖြင့် ပူးတွဲပေးပို့အပ်ပါသည်။ **နောက်ဆက်တွဲ(က)**

၃။ FDA ခွင့်ပြုချက်မရှိဘဲ ဆေးဝါးများ ထုတ်လုပ်ခဲ့သည့် အထောက်အထားအဖြစ် ဆေးပြားရိုက်စက် (Tableting Machine) (၁၀)လုံးအား ပလတ်စတစ်များဖုံးအုပ်၍ အခန်းတစ်ခုအတွင်း စုစည်းထားသည့် အထောက်အထားကိုလည်း တွေ့ရှိခဲ့ပါသည်။ ယင်းစက်များမှာ မည်သည့်ဆေးဝါးမျိုးမဆို အသင့်ထုတ်လုပ်နိုင်သည့် အခြေအနေတွင် ရှိပါသည်။ စုစည်းထားသည့် စက်ပစ္စည်းများ၏ မှတ်တမ်းဓာတ်ပုံကို **နောက်ဆက်တွဲ(ခ)**ဖြင့် ပူးတွဲပေးပို့အပ်ပါသည်။ **နောက်ဆက်တွဲ(ခ)**

၄။ Silver Shine International Co., Ltd. သည် ရည်ညွှန်းချက်ပါစာတွင် ပါရှိသည့်အတိုင်း BPI ဆေးဝါးအတုမျိုးစုံ ထုတ်လုပ်ဖြန့်ချိခဲ့ပြီး ယခင်အစိုးရအဆက်ဆက်၌ အရေးယူတားမြစ်မှုများမရှိခဲ့သဖြင့် ပိုမိုကြီးထွားလာသည့် စက်ရုံဖြစ်ပြီး၊ ယခု မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ စစ်ဆေးရေးအဖွဲ့ဖြင့် စစ်ဆေးရာတွင်လည်း FDA လိုင်စင်မဲ့ဖြင့် ဆေးဝါးများ ထုတ်လုပ်ခဲ့သည့် အထောက်အထား(၂)ခုကို တွေ့ရှိခဲ့ရခြင်းဖြစ်ပါသည်။

၅။ သို့ပါ၍ Silver Shine International Co., Ltd. သို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏အဖွဲ့ဖြင့် ပူးပေါင်း၍ ၂၉.၃.၂၀၁၈ ရက်နေ့တွင် သွားရောက်စစ်ဆေးစဉ် တွေ့ရှိခဲ့ရသည့် FDA လိုင်စင်မဲ့ ဆေးဝါးထုတ်လုပ်မှု အထောက်အထား(၂)မျိုးအား သိရှိနိုင်ပါရန် ထပ်မံပေးပို့ညှိနှိုင်းအပ်ပါသည်။

2/4/2018

ခင်မောင်ချို
ပြည်ထောင်စုဝန်ကြီး

နောက်ဆက်တွဲ(က)

| | |
|---|---|
| S S I PHARMA | Subject : Specification and Test For Parashine Tablet(PV-1) |
| Document No. | FPSP/015 |
| Department | QC Department |
| Effective Date | 5-Sep-16 |
| Version | 1 |

| | | | | | |
|---|---|---|---|---|---|
| Lot Number | : | 023H7 | Batch Size | : | 210,000 Tablets |
| Manufacturing Date | : | 26.5.2017 | Expiry Date | : | 25.11.2020 |
| QC No. | : | T- 23/17 | Date | : | 27.5.2017 |

**Each tablet contains**

Paracetamol BP 500 mg|

| TEST | SPECIFICATION | RESULTS | REFERENCES |
|---|---|---|---|
| Description | A white, circular standard convex tablet with break line, Paracetamol 500 engraved letter and 13 mm diameter. | PASS | Manufacturer's |
| Identification | Test by UV at 257 nm. | PASS | BP 2008 |
| Average Weight | 0.5832 g | PASS | Manufacturer's |
| Uniformity of weight | ± 5.0% | PASS | BP 2008 |
| Hardness | 2.0 Kg to 10.0 Kg | 8.38 Kg | Manufacturer's |
| Disintegration Time | Not more than 15 mins | 4 mins | BP 2008 |
| Friability Test | Not more than 1.0% | 0.29 % | BP 2008 |
| Assay | 95.0% to 105.0% of the stated amount of $C_8H_9NO_2$ per tablet. | 98.97 % | BP 2008 |

**All the results comply with the specifications: PASS/ FAIL** (circle appropriate)

**Analyzed By :** Daw Su Su Htun **Date :** 27-5-2017

**Approved By :** U Aye Kyaw **Date :** 27-5-2017

နောက်ဆက်တွဲ (ခ)

# ပလတ်စတစ်အုပ်ထားသော အသင့်လည်ပတ်အသုံးပြုနိုင်သည့် Tableting Machine အဟောင်း(၁၀)လုံး





၎င်းစက်များကိုအသုံးပြု၍ ကြိုက်နှစ်သက်ရာဆေးပြားများကို ရိုက်နှိပ်ထုတ်လုပ်နိုင်ပါသည်။(၁၀)လုံး

FDA သို့ လိုင်စင်တင်ထားဆဲဖြစ်သော Paracetamol ပုံစံ (၃)မျိုး
( FDA ခွင့်ပြုချက်မရရှိသေးပါ။ )







BPI ပုံစံတူဆေးပြားပါ Parashine ဆေးဘူး

# SSI ဆေးဝါးထုတ်လုပ်ရေးလုပ်ငန်းမှ ထုတ်လုပ်သော Parashine Tablet နှင့် BPI စက်ရုံမှထုတ်လုပ်သော Paracetamol Tablet တို့၏ ပြင်ပသွင်ပြင်လက္ခဏာ နှိုင်းယှဉ်ချက်ဇယား

| စစ်ဆေးချက် | SSI ဆေးဝါးထုတ်လုပ်ရေးလုပ်ငန်းမှ ထုတ်လုပ်သော Parashine Tablet | BPI မှ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ အထိ ထုတ်လုပ်ခဲ့သော Paracetamol Tablet | ဆေးဝါးအတုအပပြုလုပ်ခြင်းမှ ကာကွယ်ရန် အတွက် ၂၀၁၆ ခုနှစ် ဒီဇင်ဘာလမှစ၍ ထုတ်လုပ်ခဲ့သော Paracetamol Tablet |
| --- | --- | --- | --- |
| |  |  |  |
| Appearance | A white circular standard convex tablet with break line, Paracetamol 500 engraved letter and 13 mm diameter. | A white circular, convex tablet with break line. | A white circular , convex tablet with break line BPI printed letters on other side |
| Diameter | 13.0 mm | 12.8 mm | 13.2 mm |
| Thickness | 4.5 mm | 5.2 mm to 5.3 mm | 4.9 mm to 5.0 mm |
| Average weight | 0.5832 g | 0.5420 g | 0.5440 g |
| Hardness | 82.18 N | 60.70 N | 95.42 N |
| Disintegration time | 4 min | 2 min | 4 min to 5 min |
| Assay | 98.97% of $C_8H_9NO_2$ per tablet. | 100.6% of $C_8H_9NO_2$ per tablet. | 99.8% of $C_8H_9NO_2$ per tablet. |

လျှို့ဝှက်

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၅၃ -စမ(၁) ၂၀၁၇-၂၀၁၈ (၇၀၄၁)

ရက် စွဲ ၊ ၂၀၁၈ ခုနှစ်၊ ဖေဖော်ဝါရီလ၂၈ ရက်

သို့

**ပြည်ထောင်စုဝန်ကြီး**

**စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန**

အကြောင်းအရာ။ **Silver Shine International Co., Ltd ၏ ဆေးဝါးထုတ်လုပ်ရေးအပေါ် စစ်ဆေးတွေ့ရှိမှု အခြေအနေပေးပို့ခြင်း**

၁။ Silver Shine International Co., Ltd ၏ ဆေးဝါးထုတ်လုပ်ရေးစက်ရုံသည် ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ရွှေပေါက်ကံ စက်မှုဇုန်တွင်တည်ရှိပြီး Tablet and Capsule Plant အသစ်အား ၃.၂.၂၀၁၈ ရက်နေ့တွင် ဖွင့်ပွဲအခမ်းအနားဖြင့် ဖွင့်လှစ်ခဲ့ပါသည်။

၂။ အထက်ပါစက်ရုံသည် ယခင်က BPI ဆေးဝါးအတုမျိုးစုံ ထုတ်လုပ်ဖြန့်ချီခဲ့ပြီး ယခင်အစိုးရအဆက်ဆက်တွင် အရေးယူတားမြစ်မှုများ မရှိခဲ့သဖြင့် ပိုမိုကြီးထွားလာခဲ့သောစက်ရုံဖြစ်ပါသည်။

၃။ အစိုးရသစ်လက်ထက် ဆေးဝါးအတုများ ဖြန့်ချီရောင်းချထုတ်လုပ်သူများ ဖမ်းဆီးရာတွင် အဆိုပါစက်ရုံမှ မြန်မာနိုင်ငံအစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာန(FDA)၏ ခွင့်ပြုလိုင်စင်မရှိဘဲ ဆေးဝါးများ ထုတ်လုပ်လျက်ရှိသဖြင့် ၃.၃.၂၀၁၇ ရက်နေ့တွင် အထူးစုံစမ်းစစ်ဆေးရေးဦးစီးဌာနမှ ဝင်ရောက်စစ်ဆေးပြီး ထုတ်လုပ်ထားသည့် ဆေးဝါးများ သိမ်းဆည်းခဲ့ပြီး တရားစွဲဆိုရန် ဆောင်ရွက်လျက်ရှိကြောင်း သိရှိရပါသည်။

၄။ ယခုအခါတွင် Silver Shine International Co., Ltd ၏ဆေးဝါးထုတ်လုပ်ရေးစက်ရုံအား FDA မှ Paragesic နှင့် Milk of Magnesium (MOM) ဆေးဝါး(၂)မျိုးသာ ယာယီ ထုတ်လုပ်ခွင့် လိုင်စင်ပေးထားပါသည်။

၅။ စက်မှုဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန ဦးဆောင်၍ မြန်မာ့ဆေးဝါးလုပ်ငန်းမှ ဆေးဝါးထုတ်လုပ်မှု ကျွမ်းကျင်သူများပါဝင်သော စစ်ဆေးရေးအဖွဲ့မှ Silver Shine International Co., Ltd ၏ စက်ရုံသို့ သွားရောက်စစ်ဆေးရာတွင် အထက်ပါစက်ရုံမှ တာဝန်ရှိသူများအနေဖြင့် စစ်ဆေးရေးအဖွဲ့အား အသစ်ဖွင့်လှစ်မည့် Tablet and Capsule Plant အသစ်ကိုသာ အကန့်အသတ်ဖြင့် စစ်ဆေးခွင့်ပြုခဲ့ပြီး ယခင်ဆေးဝါး ထုတ်လုပ်လျက်ရှိသည့် အဆောက်အဦးအဟောင်းများအား ဝင်ရောက်စစ်ဆေးခွင့်မပြုခြင်း၊ ဓာတ်ပုံရိုက်ခွင့်မပြုခြင်းတို့

လျှို့ဝှက်

လုပ်ဆောင်ခဲ့ပါသည်။ Tablet and Capsule Plant အသစ်သည်လည်း စက်စွမ်းအားအနေဖြင့် တစ်နှစ်လျှင် ဆေးပြားဆေးတောင့် သန်း(၂၀၀)သာ ထုတ်လုပ်နိုင်မည်ဖြစ်ပါသည်။

၆။ အထက်ပါစက်ရုံအနေဖြင့် အသစ်ဖွင့်လှစ်သည့် Plant အသစ်မှ ဆေးဝါးထုတ်လုပ်မှုပြကာ ကမ္ဘာ့ကျန်းမာရေးအဖွဲ့ (WHO)၏ GMP Guide Line နှင့်မညီသော အဆောက်အဦနှင့် စက်ပစ္စည်းအဟောင်းများဖြင့် ပြည်သူများသုံးစွဲရန် မသင့်သည့်ဆေးဝါးများ ဆက်လက်ထုတ်လုပ်နိုင်သည့် အခြေအနေကိုလည်း စိစစ်တွေ့ရှိရပါသည်။

၇။ ပူးတွဲပါစက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးအဖွဲ့၏ အစီရင်ခံစာအရ ဆေးဝါးထုတ်လုပ်မှုနည်းပညာပိုင်းတွင် အဓိကအရေးကြီးသော Design Qualification(DQ)၊ Installation Qualification(IQ)၊ Operational Qualification(OQ)၊ Perfomance Qualification(PQ)များ ပြုလုပ်ရန်၊ Standard Operation Procedure (SOP) များထားရှိရန်၊ GMP Training များ ဆောင်ရွက်ရန်၊ ခေတ်နောက်ကျနေသည့် ဆေးကျမ်း British Pharmacopoeia(BP) 1993 အစား British Pharmacopoeia (BP) 2018 အား မှီငြမ်းအသုံးပြုရန်၊ ထုတ်လုပ်သည့် ဆေးဝါးများ၏ အရည်အသွေး စမ်းသပ်ရန်အတွက် Standard Laboratory Chemical များ ဝယ်ယူအသုံးပြုရန်၊ Stand by Chiller ထပ်မံ တပ်ဆင်ရန်တို့ ဆောင်ရွက်ရန် လိုအပ်လျက်ရှိပါသည်။

၈။ Silver Shine International Co., Ltd ဆေးဝါးထုတ်လုပ်ရေး စက်ရုံအနေဖြင့် စက်မှုဝန်ကြီးဌာန စစ်ဆေးရေးအဖွဲ့၏ စစ်ဆေးမှုကို ခံယူခြင်းမရှိခဲ့သော WHO GMP Guide Line နှင့်မညီသည့် အဆောက်အဦနှင့်စက်ပစ္စည်းအဟောင်းများတွင် ဆေးဝါးထုတ်လုပ်ခွင့် မပြုသင့်ပါ။

၉။ သို့ဖြစ်ပါ၍ Silver Shine International Co., Ltd ၏အသစ်ဖွင့်လှစ်သည့် Tablet and Capsule Plant အား အပိုဒ်(၇)ပါဆေးဝါးထုတ်လုပ်မှု နည်းပညာပိုင်း လိုအပ်ချက်များ ဖြည့်ဆည်းပြီးပါက ပြန်လည်စစ်ဆေးခံယူရေးအတွက် အကန့်အသတ်ဖြင့် ခွင့်ပြုသင့်ပါကြောင်း ညှိနှိုင်းအပ်ပါသည်။

(signature) 28/2/2018

ခင်မောင်ချို
ပြည်ထောင်စုဝန်ကြီး

## SSI ကုမ္ပဏီ၏ အသစ်ဖွင့်လှစ်သည့် စက်ရုံ အဆောက်အဦ အသစ်နှင့် စက်ရုံ အဆောက်အဦ ဟောင်းများ၏ပုံ



SSI စက်ရုံအား လိုင်စင်မဲ့ ဆေးဝါးများ ထုတ်လုပ်ခြင်းအတွက် ဖမ်းဆီးမှု မပြုမီ
ရိုက်ကူးထားသည့်ပုံ



# SSI စက်ရုံအား လိုင်စင်မဲ့ ဆေးဝါးများ ထုတ်လုပ်ခြင်းအတွက် ဖမ်းဆီးမှု မပြုမီ ရိုက်ကူးထားသည့် ကုမ္ပဏီပိုင်ရှင် နေအိမ်နှင့် ရုံးခန်းပုံ




ပုဇွန်တောင်မြို့နယ်၊ (၇)ရပ်ကွက်၊ မဟာဓေယျလမ်း၊ အမှတ်(၂၆)ရှိ နေအိမ်နှင့်

SSI Co.,ltd. ရုံးခန်းအား မြင်တွေ့ရသည့် မှတ်တမ်းဓါတ်ပုံ



## SSI ကုမ္ပဏီ၏ လိုင်စင်မဲ့ ထုတ်လုပ်မှု ဝင်ရောက်ဖမ်းဆီးစဉ် ထုတ်လုပ်ရေး စက်ရုံ အဆောက်အဦဟောင်းမှ သိမ်းဆည်းရမိသည့် ဆေးဝါးများပုံ




မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုံ ကနောင်မင်းသားကြီးလမ်း၊ အမှတ်(၂၈/၂၉/၃၀/၃၁)ရှိ
SSI Co.,ltd. ဆေးဝါးစက်ရုံမှ သိမ်းဆည်းရမိသည့် မှတ်တမ်းဓါတ်ပုံ



## SSI ကုမ္ပဏီအား လိုင်စင်မဲ့ ထုတ်လုပ်မှု ဝင်ရောက်ဖမ်းဆီးစဉ် ထုတ်လုပ်ရေး စက်ရုံ အဆောက်အဦဟောင်းမှ သိမ်းဆည်းရမိသည့် ဆေးဝါးများနှင့် ဆေးပြားရိုက်စက် ပစ္စည်းအစိတ်အပိုင်းများပုံ



မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုန် ကနောင်မင်းသားကြီးလမ်း၊ အမှတ်(၂၈/၂၉/၃၀/၃၁)ရှိ
SSI Co.,ltd ဆေးဝါးစက်ရုံမှ သိမ်းဆည်းရမိသည့် မှတ်တမ်းဓါတ်ပုံ



## စက်မှုဝန်ကြီးဌာန စစ်ဆေးရေးအဖွဲ့၏ အစစ်ဆေးခံယူခွင့် မပေးသော ထုတ်လုပ်ရေး အဆောက်အဦဟောင်းတွင် ဆေးဝါးများ လိုင်စင်မဲ့ ထုတ်လုပ်နေပုံနှင့် WHO GMP Guide line နှင့်မညီသည့် စက်ပစ္စည်းပုံ



မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုန် ကနောင်မင်းသားကြီးလမ်း၊ အမှတ်(၂၈/၂၉/၃၀/၃၁)ရှိ

SSI Co.,ltd. ဆေးဝါးစက်ရုံတွင် ဆေးဝါးထုတ်လုပ်နေမှုအား မြင်တွေ့ရသည့် မှတ်တမ်းဓါတ်ပုံ



စက်မှုဝန်ကြီးဌာန

စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

# Silver Shine Co.,Ltd ၏ဆေးဝါးစက်ရုံသို့ သွားရောက် စစ်ဆေးမှု အစီရင်ခံစာ

၂၀၁၈ ခုနှစ်၊ ဇန်နဝါရီလ ၂၅ ရက်

# SSI ဆေးဝါးထုတ်လုပ်ရေးစက်ရုံနှင့်ပတ်သက်၍ စစ်ဆေးတွေ့ရှိချက် အစီရင်ခံစာ

| စဉ် | စစ်ဆေးသည့်အကြောင်းအရာ | စစ်ဆေးတွေ့ရှိချက် | သုံးသပ်တင်ပြချက် |
|---|---|---|---|
| ၁။ | ဆေးဝါးများထုတ်လုပ်ရာတွင် အသုံးပြုလျက်ရှိသည့် စက်ပစ္စည်းများနှင့် ပတ်သက်၍ စစ်ဆေးခြင်း။<br>(Machine) | –အသုံးပြုလျက်ရှိသည့် စက်ပစ္စည်းများသည် တရုတ်နိုင်ငံထုတ် စက်များဖြစ်ပြီး ၎င်းစက်များအားလုံးကို Design Qualification၊ Installation Qualification၊Operation Qualificationနှင့်Performance Qualification များ မရှိကြောင်း တွေ့ရှိရပါသည်။<br><br>**Lifting Cone Mill, China**<br><br>**Fluid Bed Dryer, China** | –ဆေးဝါးထုတ်လုပ်သည့်စက်များအား DQ, IQ, OQ, PQပြုလုပ်ထားခြင်းမရှိ၍ ထုတ်လုပ်သည့်ဆေးဝါး၏ အရည်အသွေးကိုအာမခံနိုင်ခြင်းမရှိပါ။<br>–High Shear Mixer Granalutor (၁)လုံးနှင့် Fluid Bed Dryer(၁)လုံးသာရှိ၍ ဆေးဝါးများထုတ်လုပ်ရာတွင် ရောနှောမှုမဖြစ်စေရန် နေ့စဉ်ဆေးဝါးတစ်မျိုးသာ ထုတ်သင့်ပါသည်။<br>–Cleaning Validation သေချာစွာပြုလုပ်ပြီးမှသာနောက်ထပ် အခြားဆေးတစ်မျိုးကို ထုတ်သင့်ပါသည်။<br>–GMP အရ Non-Betalactam ဆေးဝါးများသာထုတ်လုပ်နိုင်ကြောင်း တွေ့ရှိရပါသည်။ |

| စဉ် | စစ်ဆေးသည့်အကြောင်းအရာ | စစ်ဆေးတွေ့ရှိချက် | သုံးသပ်တင်ပြချက် |
|---|---|---|---|
| ၂။ | ထုတ်လုပ်နေသည့်ဆေးဝါးများနှင့်ပတ်သက်၍ စစ်ဆေးခြင်း။<br>(Product) | -Paracetamol Tablet နှင့် Cream of Magnesia Tablet (၂)မျိုး ထုတ်လုပ်လျက်ရှိပြီး ၎င်းဆေးဝါးများ၏ မျက်နှာပြင်တွင်SSI Logo ကို ရိုက်နှိပ်ထားကြောင်း တွေ့ရှိရပါသည်။<br><br><br>**Paragesic (Paracetamol** BP 500 mg)<br><br><br>SSI M.O.M (Magnesium Hydroxide USP 300 mg) | -ဆေးပြားများ၏ မျက်နှာပြင်တွင် SSI Logo တံဆိပ်ရိုက်နှိပ်ထားသဖြင့် BPI ဆေးဝါးများနှင့် မတူညီသည်ကို တွေ့ရှိရပါသည်။ |

| စဉ် | စစ်ဆေးသည့်အကြောင်းအရာ | စစ်ဆေးတွေ့ရှိချက် | သုံးသပ်တင်ပြချက် |
| --- | --- | --- | --- |
| ၃။ | ဆေးဝါးများထုတ်လုပ်မှုအဆောက်အဦနှင့် အခန်းဖွဲ့စည်းပုံစစ်ဆေးခြင်း။<br>(Building & Layouts)<br><br>Ground Floor Process Equipment Layout<br><br>First Floor Process Equipment Layout | -ဆေးဝါးထုတ်လုပ်သည့်ကြမ်းခင်းနှင့် လျှောက်လမ်းအား PVC Floor ခင်းထားသည်ကို တွေ့ရှိရပါသည်။<br>-အခန်းနံရံများအား တရုတ်နိုင်ငံထုတ် Composit Panel ဖြင့် ကာရံထားသည်ကို တွေ့ရှိရပါသည်။<br>-Heating Ventilation Airconditioning System နှင့် Building Management System ရှိကြောင်း တွေ့ရှိရပါသည်။<br>-Fire Fighting System နှင့် Emergency Exit များ ပြည့်စုံကြောင်း တွေ့ရှိရပါသည်။<br> <br> <br>BMS System | -သီးခြားသုံးသပ်တင်ပြချက်မရှိပါ။ |

| စဉ် | စစ်ဆေးသည့်အကြောင်းအရာ | စစ်ဆေးတွေ့ရှိချက် | သုံးသပ်တင်ပြချက် |
|---|---|---|---|
| ၄။ | ဝန်ထမ်းများ<br>(Personnels) | –ကောင်းမွန်သောထုတ်လုပ်မှုကျင့်စဉ်နှင့်ပတ်သက်၍ သင်တန်းပို့ချထားသည့်မှတ်တမ်းများမရှိခြင်း။ | – ဆေးဝါးများကိုကောင်းမွန်သောထုတ်လုပ်မှုကျင့်စဉ်ဖြင့် ထုတ်လုပ်နိုင်ရန် ဝန်ထမ်းများကို GMP Training ပေးခြင်း၊ စဉ်ဆက်မပြတ်လေ့လာစေခြင်းတို့ ဆောင်ရွက်ထားသည့် မှတ်တမ်းများရှိသင့်ပါသည်။ |
| ၅။ | အရည်အသွေးထိန်းသိမ်းရေး<br>(Quality Control) | –ဆေးဝါးကုန်ကြမ်း/ကုန်ချောများ၏ စံချိန်စံညွှန်းများကို စစ်ဆေးရာတွင် မှီငြမ်းရသည့် ဆေးကျမ်းမှာ BP 1993 ကိုသာ အသုံးပြုနေကြောင်း တွေ့ရှိရပါသည်။<br>–ထုတ်လုပ်ထားသော ဆေးဝါးများ၏ အရည်အသွေးကို Standard နှင့်နှိုင်းယှဉ်စမ်းသပ်ရန်လိုအပ်သော်လည်း Standard တစ်ခုမျှ ဝယ်ယူထားခြင်းမရှိကြောင်းတွေ့ရှိရပါသည်။<br> | –ထုတ်လုပ်ထားသော ဆေးဝါးများ၏ အရည်အသွေးကိုစမ်းသပ်ရန်အတွက် Latest Edition BP 2018 ကိုအသုံးပြုသင့်ကြောင်း တင်ပြအပ်ပါသည်။<br>–ဆေးဝါးများအားအရည်အသွေးခါတ်ခွဲစမ်းသပ်ရန် Standard များမရှိ၍ ကောင်းမွန်သောဓါတ်ခွဲမှုကျင့်စဉ် GLP နှင့်ကိုက်ညီခြင်းမရှိကြောင်း တင်ပြအပ်ပါသည်။ |

| စဉ် | စစ်ဆေးသည့်အကြောင်းအရာ | စစ်ဆေးတွေ့ရှိချက် | သုံးသပ်တင်ပြချက် |
|---|---|---|---|
| ၆။ | အရည်အသွေးအာမခံခြင်းနှင့်ပတ်သက်၍ စစ်ဆေးခြင်း။ | -ဆေးဝါးထုတ်လုပ်သည့် ဌာနအတွင်းတွင် Hand Washing SOP မှလွဲ၍ မရှိပါ။<br>-စက်များတွင်လည်း SOP ကပ်ထားခြင်းမတွေ့ရပါ။<br>-Master SOP List စာရင်းအား ပြုစုထားခြင်းမရှိပါ။<br>-စက်ရုံဖွဲ့စည်းပုံနှင့် ဝန်ထမ်းများ၏ တာဝန်ဝတ္တရားများကိုရေးသားထားသော်လည်း ဝန်ထမ်းတစ်ဦးချင်းစီမှ သိရှိကြောင်း Acknowledged မရှိခြင်း။<br>-Batch Processing Record ရှိကြောင်း တွေ့ရှိရပါသည်။ | -ကောင်းမွန်သောဆေးဝါးထုတ်လုပ်မှုကျင့်စဉ်နှင့်အညီ ဆေးဝါးထုတ်လုပ်နိုင်ရန်အတွက် စက်များတွင် SOPများကပ်ထားခြင်း၊ ကုန်ကြမ်းမှ ကုန်ချောအထိအဆင့်ဆင့် SOPများရေးသား၍လိုက်နာဆောင်ရွက်ရန်လိုအပ်ပါသည်။<br>-QMS အရသတ်မှတ်ထားသော SOPများမရှိပါ၍ Quality Management System အသက်ဝင်ခြင်းမရှိကြောင်း သုံးသပ်ရရှိပါသည်။ |
| ၇။ | Utilities | -Air Handling Unit (၅)လုံး၊ Chiller(၁)လုံးသာ တပ်ဆင်ထားသည်ကို တွေ့ရှိရပါသည်။<br><br>Air Handling Unit | -GMP နှင့် ISPE အရ ဆေးဝါးထုတ်လုပ်သည့်အခန်းများ၏ အပူချိန်၊ စိုထိုင်းဆ ထိန်းသိမ်းရန်အတွက် Stand by Chiller ထားရှိသင့်ပါသည်။<br>-Stand By Chiller မရှိ၍ Operating Chiller ရုတ်တရက်စက်ချို့ယွင်းသွားပါက ဆေးဝါးထုတ်လုပ်မှုအခန်းများ၏အပူချိန်၊ စိုထိုင်းဆနှင့် သန့်ရှင်းမှုကိုထိခိုက်၍ အရည်အသွေးအာမခံချက်မရှိကြောင်း သုံးသပ်ရရှိပါသည်။ |

| စဉ် | စစ်ဆေးသည့်အကြောင်းအရာ | စစ်ဆေးတွေ့ရှိချက် | သုံးသပ်တင်ပြချက် |
|---|---|---|---|
| | |  2TH/ double RO with EDI, UVPW Water System  Chiller M/C with Pumps & Cooling tower, 380V, 3 phase 50 Hz | |

အထွေထွေသုံးသပ်တင်ပြချက်။ ။ တရုတ်နိုင်ငံထုတ် စက်ပစ္စည်းများကို သုံးထားခြင်း၊ DQ, IQ, OQ, PQ များပြုလုပ်ထားခြင်းမရှိခြင်း၊ SOP များမရှိခြင်း၊ GMP Traning မှတ်တမ်းများမရှိခြင်း၊ ခေတ်မီဆေးကျမ်းများကို မှီငြမ်းခြင်းမရှိဘဲ BP 1993 ကိုသာ ဆက်လက်အသုံးပြုလျက်ရှိခြင်း၊ ဆေးဝါးများ၏ အရည်အသွေးစမ်းသပ်ရန် Standard ဝယ်ယူထားခြင်းမရှိခြင်း၊ Stand By Chiller မရှိခြင်းတို့ကို တွေ့ရှိရပါသဖြင့် အဆိုပါအချက်များ ပြည့်စုံမှသာလျှင်စက်မှုကြီးကြပ်လိုင်စင် ထုတ်ပေးသင့်ပါကြောင်းတင်ပြအပ်ပါသည်။

Silver Shine Co.,Ltd ၏ဆေးဝါးစက်ရုံ



## ဆေးဝါးထုတ်လုပ်သည့် စက်ပစ္စည်း(၂)မျိုး



Lifting Cone Mill, China



Fluid Bed Dryer, China

PVC Floor ခင်းထားသည့်ကြမ်းခင်းနှင့်လျှောက်လမ်းများ





# SSI မှ ထုတ်လုပ်သည့်ဆေးပြား(၂)မျိုး




**Paragesic (Paracetamol BP 500 mg)**




SSI M.O.M (Magnesium Hydroxide USP 300 mg)

## Quality Control Room



# Air Handling Unit



(နောက်ဆက်တွဲ-ဂ)

# SILVER SHINE INTERNATIONAL COMPANY LIMITED.

Regd. : No. 1344, (1994-95)

စာအမှတ်၊ (Ref) ရ-ဆ၀၁သ/၂၀၁၈(တ-၃၀)

ရက်စွဲ၊ (Date) ၂၀၁၈ ခုနှစ်၊ ဧပြီလ ၁၂ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ။ <u>ပြန်လည် ရှင်းလင်းတင်ပြခြင်း</u>

ရည် ညွှန်း ချက်။ ။ (၁၂-၄-၂၀၁၈)ရက်နေ့ (၀၉း၃၀)နာရီချိန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး၌ ကျင်းပပြုလုပ်သည့် အစည်းအဝေးမှ ညွှန်ကြားချက်အရ။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်များ **SILVER SHINE INTERNATIONAL COMPANY LIMITED** သို့ (၂၈-၃-၂၀၁၈)ရက်နေ့တွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ဦးစီး၍ မြန်မာ့ဆေးဝါးလုပ်ငန်း၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန၊ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲမှုဦးစီးဌာန တာဝန်ရှိသူများမှ မိမိတို့၏ ဆေးဝါးထုတ်လုပ်ရေးစက်ရုံသို့ ပုဂ္ဂလိကစက်မှုလုပ်ငန်းမှတ်ပုံတင်ကိစ္စနှင့်ပတ်သက်ပြီး ကွင်းဆင်းစစ်ဆေးခဲ့ရာ တွေ့ရှိချက်များအပေါ် အောက်ပါအတိုင်း ဖြေရှင်းတင်ပြအပ်ပါသည်-

(က) စက်ရုံအနေဖြင့် FDA သို့ ဆေးဝါးမှတ်ပုံတင် လျှောက်ထားရန်အတွက် Parashine Tablet (Paracetamol- 500 mg) အား (၂၆-၅-၂၀၁၇)ရက်နေ့တွင် စမ်းသပ်ထုတ်လုပ်ထားခြင်းသာဖြစ်ပါသည်။ အဆိုပါ ဆေးဝါးထုတ်လုပ်မှုမှတ်တမ်းအား ကွင်းဆင်းစစ်ဆေးရေးအဖွဲ့မှ တွေ့ရှိခဲ့ခြင်း ဖြစ်ပါသည်။(နောက်ဆက်တွဲ-က)

(ခ) စက်အဟောင်းများ ထိန်းသိမ်းထားရှိသည့် အခန်းအတွင်းမှ Tableting Machine စက်များအား တွေ့ရှိမှုနှင့်ပတ်သက်၍ အဆိုပါစက်များမှာ ထုတ်လုပ်မှုဆိုင်ရာ စံချိန်စံညွှန်းများနှင့် မကိုက်ညီသဖြင့် အသုံးမပြုဘဲ သီးသန့်ထားရှိခြင်းသာဖြစ်ပါသည်။ (နောက်ဆက်တွဲ-ခ)

(ဂ) SSI ဆေးဝါးထုတ်လုပ်ရေးလုပ်ငန်းမှ ထုတ်လုပ်သော Parashine Tablet (Paracetamol-500 mg) မှာ မြန်မာနိုင်ငံဆေးဝါးလုပ်ငန်းစက်ရုံ BPI မှ ထုတ်လုပ်သည့် (Paracetamol) ဆေးပြားနှင့် တူညီမှုမရှိဘဲ မိမိတို့ ထုတ်လုပ်သည့်ဆေးပြား၌ (Paracetamol- 500 mg) စာတမ်းပါရှိပြီး ကိုယ်ပိုင်ဒီဇိုင်းဖြင့် အရည်အသွေးစံချိန်စံညွှန်းနှင့်အညီသာ ထုတ်လုပ်ထားခြင်းဖြစ်ပါသည်။ တုပထုတ်လုပ်ထားရှိခြင်း၊ ပုံစံတူထုတ်လုပ်ထားရှိခြင်း လုံး၀(လုံး၀) မရှိပါကြောင်းနှင့် ဆေးပြားနမူနာများကို ပူးတွဲတင်ပြအပ်ပါသည်။(နောက်ဆက်တွဲ-ဂ)

၂။ ရည်ညွှန်းပါအစည်းအဝေး၌ ဖြေရှင်းတင်ပြရန် ညွှန်ကြားချက်အရ သိရှိနိုင်ပါရန်နှင့် လိုအပ်သည်များ ဆက်လက်ညွှန်ကြားနိုင်ပါရန် တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Pe Hlaing
Managing Director
Silver Shine International Co.,Ltd.

မိတ္တူကို

ရုံးလက်ခံ

NO.26,MAHA[illegible]STREET,YAYKYAW QUARTER,PAZUNDAUNG TOWNSHIP,YANGON,MYANMAR.
Phone : 951-298708,297173,4412489 Email: ssi@baganmail.net.mm

နောက်ဆက်တွဲ(က)

| | Subject : Specification and Test For Parashine Tablet(PV-1) |
|---|---|
| S S I PHARMA | Document No. FPSP/015 |
| | Department QC Department |
| | Effective Date 5-Sep-16 |
| | Version 1 |

| | | | | | |
|---|---|---|---|---|---|
| Lot Number | | 023H7 | Batch Size | : | 210,000 Tablets |
| Manufacturing Date | | 26.5.2017 | Expiry Date | : | 25.11.2020 |
| QC No. | | T- 23/17 | Date | | 27.5.2017 |

**Each tablet contains**
Paracetamol BP 500 mg

| TEST | SPECIFICATION | RESULTS | REFERENCES |
|---|---|---|---|
| Description | A white, circular standard convex tablet with break line, Paracetamol 500 engraved letter and 13 mm diameter. | PASS | Manufacturer's |
| Identification | Test by UV at 257 nm | PASS | BP 2008 |
| Average Weight | 0.5832 g | PASS | Manufacturer's |
| Uniformity of weight | ± 5.0% | PASS | BP 2008 |
| Hardness | 2.0 Kg to 10.0 Kg | 8.38 Kg | Manufacturer's |
| Disintegration Time | Not more than 15 mins | 4 mins | BP 2008 |
| Friability Test | Not more than 1.0% | 0.29 % | BP 2008 |
| Assay | 95.0% to 105.0% of the stated amount of $C_8H_9NO_2$ per tablet | 98.97 % | BP 2008 |

**All the results comply with the specifications: PASS / FAIL (circle appropriate)**

**Analyzed By :** Daw Su Su Htun **Date :** 27-5-2017

**Approved By :** U Aye Kyaw **Date :** 27-5-2017

## ပလတ်စတစ်အုပ်ထားသော အသင့်လည်ပတ်အသုံးပြုနိုင်သည့် Tableting Machine အဟောင်း(၁၀)လုံး





၎င်းစက်များကိုအသုံးပြု၍ ကြိုက်နှစ်သက်ရာဆေးပြားများကို ရိုက်နှိပ်ထုတ်လုပ်နိုင်ပါသည်။(၁၀)လုံး

SSI ဆေးဝါးထုတ်လုပ်ရေးလုပ်ငန်းမှ ထုတ်လုပ်သော Parashine Tablet နှင့် BPI စက်ရုံမှထုတ်လုပ်သော Paracetamol Tablet တို့၏ ပြင်ပသွင်ပြင်လက္ခဏာ နှိုင်းယှဉ်ချက်ဇယား

| စစ်ဆေးချက် | SSI ဆေးဝါးထုတ်လုပ်ရေးလုပ်ငန်းမှ ထုတ်လုပ်သော Parashine Tablet | BPI မှ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ အထိ ထုတ်လုပ်ခဲ့သော Paracetamol Tablet | ဆေးဝါးအတုအပပြုလုပ်ခြင်းမှ ကာကွယ်ရန် အတွက် ၂၀၁၆ ခုနှစ် ဒီဇင်ဘာလမှစ၍ ထုတ်လုပ်ခဲ့သော Paracetamol Tablet |
|---|---|---|---|
| |  |  |  |
| Appearance | A white circular standard convex tablet with break line, Paracetamol 500 engraved letter and 13 mm diameter. | A white circular, convex tablet with break line. | A white circular , convex tablet with break line BPI printed letters on other side |
| Diameter | 13.0 mm | 12.8 mm | 13.2 mm |
| Thickness | 4.5 mm | 5.2 mm to 5.3 mm | 4.9 mm to 5.0 mm |
| Average weight | 0.5832 g | 0.5420 g | 0.5440 g |
| Hardness | 82.18 N | 60.70 N | 95.42 N |
| Disintegration time | 4 min | 2 min | 4 min to 5 min |
| Assay | 98.97% of $C_8H_9NO_2$ per tablet. | 100.6% of $C_8H_9NO_2$ per tablet. | 99.8% of $C_8H_9NO_2$ per tablet. |

ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ
ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

# အဆိုပြုချက်

ဆေး(လ်)ဗားရှိုင်း အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက်

# PROPOSAL OF THE INVESTOR TO MAKE MYANMAR CITIZENS INVESTMENT IN THE UNION OF MYANMAR

SILVER SHINE INTERNATIONAL COMPANY LIMITED

ပုံစံ(မနသ-၂)

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# ယာယီခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-၀၀၄/၂၀၁၃(ယာယီ) ၂၀၁၃ ခုနှစ် ဇွန် လ ၁၇ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ၁၀ အရ ဤ ခွင့်ပြုမိန့်ကို ယာယီ ထုတ်ပေးလိုက်သည်။

| | | |
|---|---|---|
| (က) | ရင်းနှီးမြှုပ်နှံသူအမည် | ဦးဖေလှိုင် |
| (ခ) | အဘအမည် | ဦးထွန်းခင် |
| (ဂ) | နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | ၁၂/ဗတထ(နိုင်)၀၁၈၇၄၀ |
| (ဃ) | နေရပ်လိပ်စာ | အမှတ်(၂၆)၊မဟာဇေယျလမ်း၊ရေကျော်ရပ်ကွက်၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| (င) | ဖွဲ့စည်းထားသည့်(သို့မဟုတ်) ဖွဲ့စည်းမည့်အဖွဲ့အစည်း | Silver Shine International Co., Ltd. |
| (စ) | ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်း အမျိုးအစား | နိုင်ငံတကာအဆင့်မီ အနောက်တိုင်းဆေးဝါး အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း |
| (ဆ) | ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ) | ရန်ကုန်တိုင်း ဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုန်၊ ကနောင်မင်းသားကြီးလမ်း၊ မြေတိုင်းရပ်ကွက်အမှတ်(၁၈)၊ မြေကွက်အမှတ်(၂၄၊၂၈၊၂၉၊၃၀၊၃၁ အေ၊၃၁ ဘီ)တို့ရှိ စုစုပေါင်း မြေ(၂.၇၅၇)ဧက |
| (ဇ) | မတည်ရင်းနှီးငွေပမာဏ(ကျပ်) | ကျပ် ၂၁၁၀.၀၀ (သန်း) (အမေရိကန်ဒေါ်လာ (၀.၈၆)သန်းအပါအဝင် စုစုပေါင်း ကျပ်သန်း နှစ်ထောင့် တစ်ရာ တစ်ဆယ်တိတိ) |

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မှတ်ချက်

- ရင်းနှီးမြှုပ်နှံသူသည် ပူးတွဲပါ ကတိဝန်ခံချက်နှင့်အညီ လုပ်ငန်းများ ဆောင်ရွက်ရန်ဖြစ်ပြီး သတ်မှတ်စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန် ပျက်ကွက်လျှင်ဖြစ်စေ၊ သက်မှတ်ကာလအတွင်း ပြီးမြောက်အောင် အကောင်အထည်ဖော်နိုင်ခြင်း မရှိလျှင်ဖြစ်စေ ဤယာယီခွင့်ပြုမိန့်သည် အလိုအလျောက်ပျက်ပြယ်မည်။

ပုံစံ(မနသ-၂)

စစ်ဆေးသူ ........................

ရက်စွဲ ........................

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# ယာယီခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-၀၀၄/၂၀၁၃(ယာယီ) ၂၀၁၃ ခုနှစ် ဇွန် လ ၁၇ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ၁၀ အရ ဤ ခွင့်ပြုမိန့်ကို ယာယီ ထုတ်ပေးလိုက်သည်။

| | | |
|---|---|---|
| (က) | ရင်းနှီးမြှုပ်နှံသူအမည် | ဦးဖေလှိုင် |
| (ခ) | အဘအမည် | ဦးထွန်းခင် |
| (ဂ) | နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | ၁၂/ဗတထ(နိုင်)၀၁၈၇၄၀ |
| (ဃ) | နေရပ်လိပ်စာ | အမှတ်(၂၆)၊မဟာဗန္ဓုလလမ်း၊ရေကျော်ရပ်ကွက်၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| (င) | ဖွဲ့စည်းထားသည့်(သို့မဟုတ်) ဖွဲ့စည်းမည့်အဖွဲ့အစည်း | Silver Shine International Co., Ltd. |
| (စ) | ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်း အမျိုးအစား | နိုင်ငံတကာအဆင့်မီ အနောက်တိုင်းဆေးဝါး အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း |
| (ဆ) | ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ် ဒေသ(များ) | ရန်ကုန်တိုင်း ဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုန်၊ ကနောင်မင်းသားကြီးလမ်း၊ မြေတိုင်းရပ်ကွက်အမှတ်(၁၈)၊ မြေကွက်အမှတ်(၂၄၊၂၈၊၂၉၊၃၀၊၃၁ အေ၊၃၁ ဘီ)တို့ရှိ စုစုပေါင်း မြေ(၂.၇၅၇)ဧက |
| (ဇ) | မတည်ရင်းနှီးငွေပမာဏ(ကျပ်) | ကျပ် ၂၁၁၀.၀၀ (သန်း) (အမေရိကန်ဒေါ်လာ (၀.၈၆)သန်းအပါအဝင် စုစုပေါင်း ကျပ်သန်း နှစ်ထောင့် တစ်ရာ တစ်ဆယ်တိတိ) |

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**မှတ်ချက်**

- ရင်းနှီးမြှုပ်နှံသူသည် ပူးတွဲပါ ကတိဝန်ခံချက်နှင့်အညီ လုပ်ငန်းများ ဆောင်ရွက်ရန်ဖြစ်ပြီး သတ်မှတ်စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန် ပျက်ကွက်လျှင်ဖြစ်စေ၊ သက်မှတ်ကာလအတွင်း ပြီးမြောက်အောင် အကောင်အထည်ဖော်နိုင်ခြင်း မရှိလျှင်ဖြစ်စေ ဤယာယီခွင့်ပြုမိန့်သည် အလိုအလျောက်ပျက်ပြယ်မည်။

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
## ယာယီခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-၀၀၄/၂၀၁၃(ယာယီ) ၂၀၁၃ ခုနှစ် ဇွန် လ ၁၇ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ၁၀ အရ ဤ ခွင့်ပြုမိန့်ကို ယာယီ ထုတ်ပေးလိုက်သည်။

| | | |
|---|---|---|
| (က) | ရင်းနှီးမြှုပ်နှံသူအမည် | ဦးဖေလှိုင် |
| (ခ) | အဘအမည် | ဦးထွန်းခင် |
| (ဂ) | နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | ၁၂/ဗတထ(နိုင်)၀၁၈၇၄၀ |
| (ဃ) | နေရပ်လိပ်စာ | အမှတ်(၂၆)၊မဟာဇေယျလမ်း၊ရေကျော်ရပ်ကွက်၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| (င) | ဖွဲ့စည်းထားသည့်(သို့မဟုတ်) ဖွဲ့စည်းမည့်အဖွဲ့အစည်း | Silver Shine International Co., Ltd. |
| (စ) | ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်း အမျိုးအစား | နိုင်ငံတကာအဆင့်မီ အနောက်တိုင်းဆေးဝါး အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း |
| (ဆ) | ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ် ဒေသ(များ) | ရန်ကုန်တိုင်း ဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုန်၊ ကနောင်မင်းသားကြီးလမ်း၊ မြေတိုင်းရပ်ကွက်အမှတ်(၁၈)၊ မြေကွက်အမှတ် (၂၄၊၂၈၊၂၉၊၃၀၊၃၁ အေ၊၃၁ ဘီ)တို့ရှိ စုစုပေါင်း မြေ(၂.၇၅၇)ဧက |
| (ဇ) | မတည်ရင်းနှီးငွေပမာဏ(ကျပ်) | ကျပ် ၂၁၁၀.၀၀ (သန်း) (အမေရိကန်ဒေါ်လာ (၀.၈၆)သန်းအပါအဝင် စုစုပေါင်း ကျပ်သန်း နှစ်ထောင့် တစ်ရာ တစ်ဆယ်တိတိ) |

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**မှတ်ချက်**

- ရင်းနှီးမြှုပ်နှံသူသည် ပူးတွဲပါ ကတိဝန်ခံချက်နှင့်အညီ လုပ်ငန်းများ ဆောင်ရွက်ရန်ဖြစ်ပြီး သတ်မှတ်စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန် ပျက်ကွက်လျှင်ဖြစ်စေ၊ သက်မှတ်ကာလအတွင်း ပြီးမြောက်အောင် အကောင်အထည်ဖော်နိုင်ခြင်း မရှိလျှင်ဖြစ်စေ ဤယာယီခွင့်ပြုမိန့်သည် အလိုအလျောက်ပျက်ပြယ်မည်။

**Silver Shine International Co., Ltd မှ ရန်ကုန်တိုင်း ဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုန်တွင် နိုင်ငံတကာအဆင့်မီ အနောက်တိုင်း ဆေးဝါးအမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်နှင့်စပ်လျဉ်းသည့် အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Silver Shine International Co., Ltd |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးဖေလှိုင်(အဘ-ဦးထွန်းခင်) |
| ၃။ | အဆိုပြုလုပ်ငန်း အမျိုးအစား | - နိုင်ငံတကာအဆင့်မီ အနောက်တိုင်းဆေးဝါးအမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း |
| | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | - မြို့ရွာနှင့်အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာနထံမှ ကုမ္ပဏီ၏ မန်နေဂျင်းဒါရိုက်တာ ဦးဖေလှိုင်အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၁၈)၊မြေကွက်အမှတ်(၂၈၊၂၉)ရှိမြေ(၁.၀၂၅)ဧက၊ မြေကွက်အမှတ်(၃၀)ရှိမြေ (၀.၅၁၈)ဧက၊ ဦးကြည်စိုးအမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော မြေကွက်အမှတ်(၂၄+၃၁ဘီ)ရှိမြေ(၀.၅၉၃)ဧကနှင့် မြေကွက်အမှတ်(၃၁အေ)ရှိမြေ(၀.၆၂၁)ဧက စုစုပေါင်းမြေ(၂.၇၅၇)ဧက |
| ၅။ | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ် ၂၁၁၀.၀၀ သန်း (US$ ၀.၈၆ သန်း အပါအဝင်)** |
| | ငွေသား | ကျပ် ၉၂.၆၀ သန်း |
| | ကုန်ကြမ်းပစ္စည်းများ | ကျပ် ၄၈.၉၈ သန်း (US$ ၀.၀၆ သန်း) |
| | အဆောက်အဦများ | ကျပ် ၇၁၀.၄၀ သန်း |
| | မြေ | ကျပ် ၅၅၀.၀၀ သန်း |
| | စက်ပစ္စည်း | ကျပ် ၆၉၄.၀၂ သန်း (US$ ၀.၈၀ သန်း) |
| | ပရိဘောဂ | ကျပ် ၁၄.၀၀ သန်း |
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ၂၅ နှစ် |
| ၇။ | ဝင်ငွေ (ပုံမှန်နှစ်(၅)နှစ်မြောက် ဝင်ငွေ အား ကောက်နုတ်တင်ပြထားခြင်းဖြစ်ပါသည်။) | - ကျပ် ၂၀၃၈.၉၉ သန်း |
| ၈။ | အသားတင်အမြတ် (၅-နှစ်မြောက်) | - ကျပ် ၁၁၂၀.၇၀ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် | |
| | ကုန်သွယ်လုပ်ငန်းခွန်(၅%) | - ကျပ် ၁၀၁.၉၅ သန်း |
| | ဝင်ငွေခွန်(၂၅%) | - ကျပ် ၂၅၃.၁၇ သန်း |
| ၁၀။ | အရင်းကြေကာလ | - (၄)နှစ် |

| | | |
|---|---|---|
| ၁၁။ | ရင်းအနှီးပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - (၂၄.၇၂)% |
| ၁၂။ | **လုပ်သားအင်အား** | **- (၁၆၅) ဦး** |
| | ပြည်တွင်း | (၁၆၅) ဦး |
| | ပြည်ပ | - |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၆(က)/မ-၁၃၁၂/၂၀၁၃(၆၀၁၁ )

ရက်စွဲ၊ ၂၀၁၃ ခုနှစ် မေလ ၂၇ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **Silver Shine International Co., Ltd မှ ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုန်တွင် နိုင်ငံတကာအဆင့်မီ အနောက်တိုင်း ဆေးဝါးအမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းကိစ္စ**

၁။ Silver Shine International Co., Ltd သည် မြို့ရွာနှင့်အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာနထံမှ ကုမ္ပဏီ၏ မန်နေဂျင်းဒါရိုက်တာ ဦးဖေလှိုင်အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြေတိုင်းရပ်ကွက် အမှတ်(၁၈)၊ မြေကွက်အမှတ်(၂၈+၂၉)ရှိ မြေ(၁.၀၂၅)ဧက၊ မြေကွက်အမှတ်(၃၀)ရှိ မြေ(၀.၅၁၈)ဧက၊ ဦးကြည်စိုးအမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော မြေကွက်အမှတ်(၂၄+၃၁ဘီ)ရှိ မြေ(၀.၅၉၃)ဧကနှင့် မြေကွက်အမှတ်(၃၁အေ)ရှိ မြေ(၀.၆၂၁)ဧက၊ စုစုပေါင်းမြေ(၂.၇၅၇)ဧကတွင် နိုင်ငံတကာအဆင့်မီ အနောက်တိုင်း ဆေးဝါးအမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဖေလှိုင်(အဘ-ဦးထွန်းခင်)မှ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက် နှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊ စက်မှုဝန်ကြီးဌာန၊ ကျန်းမာရေးဝန်ကြီးဌာန နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန တို့သို့ သဘောထား တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ (နောက်ဆက်တွဲ - က)**

(၁) ကုမ္ပဏီမှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ငန်းဆောင်ရွက်မည့်နေရာမှာ ရွှေပေါက်ကံ စက်မှုဇုန်အတွင်း၌ဖြစ်ပြီး ကုမ္ပဏီ၏ အုပ်ချုပ်မှုဒါရိုက်တာ ဦးဖေလှိုင်ပိုင်ဆိုင်သည့် မြေ(၂.၇၅၇)ဧကအပေါ်တွင် လုပ်ငန်းဆောင်ရွက်မည်ဖြစ်သဖြင့် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းအား ထိခိုက်မှုမရှိပါကြောင်း၊

(၂) ကုမ္ပဏီ၏ အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်မည်ဆိုပါက ပြည်တွင်းဝန်ထမ်းအင်အား(၁၅၇)ဦး ခန့်အပ်ပေးနိုင်မည်ဖြစ်သဖြင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်း၊

(၃) ဖော်ပြပါမြေနေရာအား လုပ်ငန်းအတွက် အသုံးပြုခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း၊

(၄) ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၏ (၁၃/၂၀၁၃) (၂၈-၃-၂၀၁၃) ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်အပိုဒ်(၇၁)အရ Silver Shine International Co., Ltd ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအသစ်အား ခွင့်ပြုသင့်ပါကြောင်း၊

(ခ) **စက်မှုဝန်ကြီးဌာန (နောက်ဆက်တွဲ - ခ)**

(၁) အနောက်တိုင်းဆေးဝါးအမျိုးမျိုး ထုတ်လုပ်မည်ဟု ဖော်ပြထားသော်လည်း Beta-lactum ဆေး(၃)မျိုးနှင့် Non- Beta-lactum ဆေး(၂)မျိုးသာ ပါဝင်ပါကြောင်း၊

(၂) ၎င်းဆေးများမှာ အချင်းချင်းဖြစ်စေ၊ အခြားဆေးဝါးများနှင့်ဖြစ်စေ အဆောက်အဦ တစ်ခုတည်းတွင် ထုတ်လုပ်ရန်မသင့်လျော်ကြောင်း၊ ရေချွေးငွေ့လိုင်း၊ Compressed airline ရေလိုင်းများ သီးခြားသုံးစွဲပြီး ရောစပ်မှုမရှိစေရန် ခွဲခြားထား ရန် လိုအပ်ပါကြောင်း၊

(၃) အသုံးပြုမည့် စက်ပစ္စည်းများမှာ ISO လက်မှတ်ရရှိရန်၊ QC ကိရိယာများကို အသေးစိတ်ဖော်ပြရန်နှင့် ဆေးဝါးစံချိန်စံညွှန်းများ (Pharmacopoeia) အတိုင်း လိုက်နာဆောင်ရွက်ရန် လုံလောက်မှုရှိကြောင်း ခံဝန်များ တင်ပြရန်လိုအပ်ပါ ကြောင်း၊

(၄) စက်စွမ်းအားများ ဖော်ပြထားခြင်းမရှိသဖြင့် ထုတ်လုပ်မှုနှင့် စက်စွမ်းအားများ စိစစ်နိုင်ခြင်းမရှိပါကြောင်း၊

(၅) အနောက်တိုင်းဆေးဝါး ထုတ်လုပ်ခြင်းသည် စက်ကိရိယာများ၊ နည်းစဉ်များ၊ ဓါတ်ခွဲ ခန်းများ၊ ထုတ်လုပ်မည့် ဆေးဝါးများ၏ မူပိုင်ခွင့်များ၊ သုတေသန စမ်းသပ် အောင်မြင်မှုမှတ်တမ်း၊ GMP စနစ်နှင့်အညီ တည်ဆောက်မှုများ၊ နည်းပညာနှင့် ကျွမ်းကျင်ပညာရှင်များ အရေးကြီးကြောင်း၊

(၆) အမျိုးသားဆေးဝါးဥပဒေ(National Drug Law)အရ မြန်မာနိုင်ငံအစား အသောက်နှင့်ဆေးဝါး အာဏာပိုင်အဖွဲ့၏ ထောက်ခံချက်များ ရရှိရန်နှင့် အမျိုးသား ဆေးဝါးဥပဒေနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(၇) ပြည်သူလူထု ကျန်းမာရေးလုပ်ငန်းများ မြှင့်တင်နိုင်ရေးနှင့် ပြည်ပဆေးဝါး တင်သွင်းမှု အစားထိုးနိုင်ရေးအတွက် အရည်အသွေး စစ်မှန်ကောင်းမွန်ပြီး ဘေးဥပါဒ် အန္တရာယ်ကင်းရှင်းသော ဆေးဝါးများ ထုတ်လုပ်သည့် ပြည်တွင်း ဆေးဝါးစက်ရုံများဖြစ်ရန်လိုကြောင်း၊

(၈) Silver Shine International Co., Ltd မှ အနောက်တိုင်းဆေးဝါး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါ အချက်များအား လိုက်နာဆောင်ရွက်ပြီး အမျိုးသားဆေးဝါးဥပဒေ၊ ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေ၊ တည်ဆဲဥပဒေ လုပ်ထုံး လုပ်နည်းများနှင့် ညီညွတ်ပါက ဝန်ကြီးဌာန အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း၊

**(ကုမ္ပဏီမှ စက်မှုဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ဆောင်ရွက်မည် ဖြစ်ကြောင်း (၁-၅-၂၀၁၃) ရက်စွဲပါစာဖြင့် ဝန်ခံကတိပြုထားပါသည်။)**

(ဂ) **ကျန်းမာရေးဝန်ကြီးဌာန (နောက်ဆက်တွဲ - ဂ)**

(၁) ဆေးဝါးထုတ်လုပ်မှုအတွက် လုပ်ငန်းအတွေ့အကြုံရှိသည့် ကျွမ်းကျင်ပညာရှင်များ ခန့်ထားရန် လိုအပ်ပါကြောင်း၊

(၂) ထုတ်လုပ်ရန် တင်ပြထားသည့် ဆေးဝါးအမျိုးအစားများပြားမှုသည် လက်ရှိစက်ရုံ အနေအထားနှင့် မျှတမှုမရှိပါသဖြင့် ထုတ်လုပ်မည့် ဆေးဝါးအမျိုးအစား အလိုက် ရောနှောမှု မရှိစေရန် စနစ်တကျ သီးခြားထုတ်လုပ်နိုင်မည့်စနစ်ကို စီစဉ်ထားရှိရန် လိုအပ်ပါကြောင်း၊

(၃) စက်ပစ္စည်းများ၏ တန်ဘိုးမှာ ယခုလက်ရှိဈေးနှုန်းများနှင့် ကွာခြားမှု ရှိနေပါကြောင်း၊

(၄) ဆေးဝါးများ ထုတ်လုပ်ရာတွင် သတ်မှတ်ထားသော ဆေးစံကျမ်းများနှင့်အညီ ထုတ် လုပ်ရန် လိုအပ်ပါကြောင်း၊

(၅) ဆေးဝါးထုတ်လုပ်မှု ဆောင်ရွက်ရာတွင် ကမ္ဘာ့ကျန်းမာရေးအဖွဲ့၏ ဆေးဝါး ထုတ်လုပ်မှု ကျင့်စဉ်နှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊

(၆) ဆေးဝါးများ အရည်အသွေးစစ်ဆေးသည့် ဓါတ်ခွဲခန်းထားရှိရန် လိုအပ်ပါကြောင်း၊

**(ကုမ္ပဏီမှ ကျန်းမာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း(၁-၅-၂၀၁၃)ရက်စွဲပါစာဖြင့် ဝန်ခံကတိပြုထားပါသည်။)**

(ဃ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန (နောက်ဆက်တွဲ - ဃ)**

(၁) အဆိုပါလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်ဆီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်း လည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့၏ စီမံကိန်းဆိုင်ရာ အချက် အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် စက်ကိရိယာများ နှင့် ကုန်ထုတ်လုပ်မှု နည်း ပညာများ အသုံးပြုရန်၊

(၂) အဆိုပါလုပ်ငန်းခွင် လေကောင်းလေသန့်ရရှိရေး၊ရေသန့်ရရှိရေးနှင့် ပတ်ဝန်းကျင် သန့်ရှင်းကောင်းမွန်ရေးအတွက် သင့်တော်မည့် ရေစီးရေလာစနစ်နှင့် စွန့်ပစ် ပစ္စည်း စီမံခန့်ခွဲမှုစနစ်ထားရှိရန်၊

(၃) ဆေးဝါးစက်ရုံ တည်ဆောက်မှုနှင့် ဆေးဝါးထုတ်လုပ်မှုတွင် မြန်မာနိုင်ငံ ကျန်းမာရေး ဝန်ကြီးဌာနနှင့် ကမ္ဘာ့ကျန်းမာရေးအဖွဲ့(WHO)၏ ကောင်းမွန်သော ဆေးဝါးထုတ်လုပ်မှု ကျင့်စဉ်များ (Good Manufacturing Practice- GMP) တို့ကို အသုံးပြု၍ တည်ဆောက်ထုတ်လုပ်ရန် လိုအပ်ပြီး မြန်မာနိုင်ငံ အစား

အသောက် နှင့် ဆေးဝါးကွပ်ကဲ ရေးဌာန (Myanmar FDA) ၏ အသိအမှတ်ပြုမှု ရယူရန်၊

(၄) အဆိုပါလုပ်ငန်း ဆောင်ရွက်ခြင်းကြောင့် ပတ်ဝန်းကျင်နှင့် ကျန်းမာရေး ထိခိုက်မှုများ မဖြစ်စေရန်အတွက် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ချက် (Environmental Impact Assessment –EIA)ဆောင်ရွက်ရန် နှင့် အဆိုပါဆန်းစစ်တွေ့ရှိချက်များကို အခြေခံ၍ သဘာဝ ပတ်ဝန်းကျင်ထိခိုက်မှု မဖြစ်စေရန် (သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရန်အတွက် ဆောင်ရွက်မည့်အစီအစဉ်များ ပါဝင်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးစီမံချက် (Environmental Management Plan – EMP) ရေးဆွဲတင်ပြ၍ စီမံချက်ပါ လုပ်ငန်းများကို အပြည့်အဝ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(၅) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ဒေသခံလူထု၏ဆန္ဒနှင့် သဘောထားများ ရယူဆောင်ရွက်ရန်၊

(၆) ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာနနှင့် သက်ဆိုင်ရာ ဝန်ကြီးဌာန အသီးသီးတို့မှ ထုတ်ပြန်ထားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ မူဝါဒ၊ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းများနှင့် ညွှန်ကြားချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရန်၊

**(ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း (၁-၅-၂၀၁၇) ရက်စွဲပါစာဖြင့် ဝန်ခံကတိပြုထားပါသည်။)**

၃။ လုပ်ငန်း အဆိုပြုချက်ကို **(နောက်ဆက်တွဲ - စ)** ဖြင့် ဖော်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ US$ (၀.၈၆)သန်း အပါအဝင် စုစုပေါင်း ကျပ် (၂၁၁၀.၀၀)သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော US$(၀.၈၀)သန်း တန်ဖိုးရှိ စက်ပစ္စည်းများ နှင့် US$(၀.၀၆)သန်း တန်ဖိုးရှိ ကုန်ကြမ်းပစ္စည်းများအား ပြည်ပမှ ဝယ်ယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ အဆိုပြုလုပ်ငန်းအတွက် ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | ငွေသား | ကျပ် | ၉၂.၆၀ သန်း |
| (ခ) | ကုန်ကြမ်းပစ္စည်းများ | ကျပ် | ၄၈.၉၈ သန်း (US$ ၀.၀၆ သန်း) |
| (ဂ) | အဆောက်အဦများ | ကျပ် | ၇၁၀.၄၀ သန်း |
| (ဃ) | မြေ | ကျပ် | ၅၅၀.၀၀ သန်း |
| (င) | စက်ပစ္စည်း | ကျပ် | ၆၉၄.၀၂ သန်း(US$ ၀.၈၀ သန်း) |
| (စ) | ပရိဘောဂ | ကျပ် | ၁၄.၀၀ သန်း |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ်** | **၂၁၁၀.၀၀ သန်း (US$ ၀.၈၆ သန်း အပါအဝင်)** |

၄။ အဆိုပြုလုပ်ငန်းမှ Paracetamol, Vitamin B Complex, Vitamin C, Chlorphe- niramine, Phridoxine နှင့် Dimenhydrinate များ အပါအဝင် အနောက်တိုင်းဆေးဝါး ပစ္စည်း အမျိုးအမည် (၅၀) မျိုးတို့ကို ထုတ်လုပ်မည်ဖြစ်ပြီး ပြည်တွင်း၌ ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။

၅။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၅-နှစ်မြောက်)တွင် ရရှိမည့်ဝင်ငွေနှင့် အသုံး စရိတ် ခန့်မှန်းခြေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

အမေရိကန်တစ်ဒေါ်လာ= ၈၆၀ ကျပ်

| စဉ် | | နိုင်ငံခြားငွေဖြင့် US$(သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ်(သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|---|
| (က) | ဝင်ငွေ | - | - | ၂၀၃၈.၉၉ | ၂၀၃၈.၉၉ |
| (ခ) | အသုံးစရိတ် | ၀.၄၂ | ၃၆၁.၂၀ | ၉၁၈.၂၉ | ၁၂၇၉.၄၉ |
| (ဂ) | အသားတင် အမြတ် | (-)၀.၄၂ | (-)၃၆၁.၂၀ | ၁၁၂၀.၇၀ | ၇၅၉.၅၀ |

၆။ နိုင်ငံတော်မှ ပုံမှန်နှစ် (၅-နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ် လုပ်ငန်းခွန် ကျပ်(၁၀၁.၉၅)သန်း နှင့် ဝင်ငွေခွန် ကျပ် (၂၅၃.၁၇)သန်း ရရှိမည်ဖြစ်ပါသည်။ အဆိုပြု လုပ်ငန်း၏ အရင်းကြေ ကာလမှာ(၄)နှစ်ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ (၂၄.၇၂)ရာခိုင်နှုန်း ဖြစ်ပါသည်။

၇။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား(၁၆၅) ဦးခန့်ထားမည် ဖြစ်ပါသည်။ ဝန်ထမ်း သက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအတွက် ဝန်ထမ်းများ၏ လစာအပြင် ရက်မှန် ကြေး၊ ရက်ပိုကြေးများပေးအပ်မည်ဖြစ်ပါကြောင်း၊ အလုပ်သမားများ၏ အလုပ်ချိန်ကို မြန်မာနိုင်ငံ အလုပ်သမားညွှန်ကြားမှုဦးစီးဌာနမှ တရားဝင်ပြဌာန်းထားသည့် တစ်နေ့အလုပ်ချိန် (၈)နာရီ သတ်မှတ်ထားပါကြောင်း၊ အလုပ်သမားများ ကျန်းမာရေးအတွက် ဆရာဝန်များ၊ ကျန်းမာရေး စစ်ဆေးရေးမှုများကိုခန့်အပ်သွားမည်ဖြစ်ပါကြောင်း၊ နားနေခန်း၊ စားသောက်ခန်းများကိုလည်း ထားရှိသွားမည်ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၈။ လျှပ်စစ်ဓါတ်အား မရရှိသည့်အချိန်တွင် ကိုယ်ပိုင်မီးစက်ဖြင့် အသုံးပြုမည်ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၉။ ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီမှ မန်နေဂျင်းဒါရိုက်တာ ဦးဖေလှိုင်အမည်ဖြင့် မြဝတီဘဏ်၌ ၁-၁-၂၀၁၃ နေ့ရှိ ငွေလက်ကျန် ကျပ်(၃၈၈.၂၀)သန်းရှိကြောင်း တင်ပြထားရာ သုံးစွဲမည့် ကျပ်(၁၀၆)သန်းကျော်အတွက် လုံလောက်စွာ တင်ပြထားပြီး၊ နိုင်ငံခြားငွေ အထောက် အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် MFTB ဘဏ်ရှိ ၂၀-၃-၂၀၁၃နေ့ရှိ ငွေလက်ကျန်မှာ US$(၀.၁၈) သန်း ရှိကြောင်း တင်ပြထားရာ သုံးစွဲမည့်နိုင်ငံခြားငွေ US$(၀.၈၆)သန်းအတွက် ၂၀ % တင်ပြထား ကြောင်း စိစစ်ရပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိပါကြောင်း၊ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း အသစ်ဖြစ်ပါကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ် ဆောင်ရွက်ထားမည် ဖြစ်ပါကြောင်း၊ မီးဘေးကြိုတင်ကာကွယ်မှုများ ပြုလုပ်မည်ဖြစ်ပါ ကြောင်း၊ လုပ်ငန်းအတွက်လိုအပ်သော စက်ကိရိယာများ၊ စက်အရန်ပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်း များကို ကုမ္ပဏီပိုင်ငွေဖြင့် ဟောင်ကောင်နိုင်ငံရှိ ALVOGEN Asia Pacific Holding Ltd ထံမှ ဝယ်ယူတင်သွင်းမည် ဖြစ်ပါကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်း ထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း၊ ပုဂ္ဂလိက စက်မှု လုပ်ငန်း မှတ်ပုံတင်ထားရှိမည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ ဝန်ခံကတိပြုထားပါသည်။

၁၁။ Silver Shine International Co., Ltd မှ ထုတ်လုပ်မည့် အနောက်တိုင်းဆေးဝါးများကို ALVOGEN IPCo S.ar.l Luxembourg နှင့် အမေရိကန်နိုင်ငံမှ FDA မှတ်ပုံတင်လက်မှတ် ရရှိထားသည့် Norwich Pharmaceuticals Industrial –USA တို့၏ စံချိန်စံညွှန်းများနှင့်အညီ ထုတ်လုပ်ရန် Technical Licence and Raw Material Supply အတွက် ALVOGEN IPCo S.ar.l နှင့် Silver Shine International Co., Ltdတို့ နှစ်ဦးနှစ်ဖက် သဘောတူလက်မှတ် ရေးထိုးထားသည့် MOU အား ပူးတွဲ တင်ပြထားပါသည်။

၁၂။ **စိစစ်တင်ပြချက်**

(က) Silver Shine International Co., Ltd သည် ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၁၈၊၂၄၊၂၈၊၂၉၊ ၃၀၊၃၁အေ၊၃၁ဘီ)တို့ရှိ စုစုပေါင်းမြေ(၂.၇၅၇)ဧကတွင် အနောက်တိုင်း အိမ်သုံးဆေးဝါး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်း အား ကော်မရှင်၏ (၄-၄-၂၀၁၂)နေ့တွင် ကျင်းပသော (၁၁/၂၀၁၂)ကြိမ်မြောက် အစည်းအဝေး သို့ တင်ပြခဲ့ရာ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်- **(နောက်ဆက်တွဲ-C)**

(၁) အဆိုပြုလုပ်ငန်းသည် လုပ်ငန်းအဟောင်းကို ဆက်လက် ဆောင်ရွက်ရန် တင်ပြခြင်းဖြစ်၍ ခွင့်မပြုရန်၊

(၂) ဆက်လက် ဆောင်ရွက်လိုပါက လုပ်ငန်းအသစ်၊ ရင်းနှီးမြှုပ်နှံမှု အသစ်အနေဖြင့် ပြန်လည်တင်ပြရန်၊

(ခ) Silver Shine International Co., Ltd သည် ပုဂ္ဂလိက ဆေးဝါး ထုတ်လုပ်ရေး လုပ်ငန်းကို ၁၉၉၇ ခုနှစ် မှ ၂၀၀၄ ခုနှစ်အထိ ကျန်းမာရေးဝန်ကြီးဌာနနှင့် အမှတ်(၁) စက်မှုဝန်ကြီးဌာနတို့၏ ခွင့်ပြုချက်ဖြင့် လုပ်ကိုင်ခဲ့ပါကြောင်း၊ ၂၀၀၅ ခုနှစ် မှစ၍ အမှတ်(၁)စက်မှုဝန်ကြီးဌာန၏ မူဝါဒအရ ပုဂ္ဂလိက ဆေးဝါး ထုတ်လုပ်ရေး လုပ်ငန်းအားလုံးကို ရပ်ဆိုင်းခဲ့ရပါကြောင်း၊ ကုမ္ပဏီမှ ဝန်ထမ်းများ၏ စားဝတ်နေရေး အတွက် သီးစုံဓါတ်ဆားမှုန့် ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆက်လက်လုပ်ကိုင်ခဲ့ပါ ကြောင်း၊ ၂၀၁၁ ခုနှစ်တွင် အနောက်တိုင်းဆေးဝါးများ ထုတ်လုပ်ခွင့်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ လျှောက်ထားခဲ့ရာ ကော်မရှင်၏ (၁၁/၂၀၁၂)

(၄-၄-၂၀၁၂) အစည်းအဝေး ဆုံးဖြတ်ချက်အရ ဆေးဝါးထုတ်လုပ်ခြင်း လုပ်ငန်းကို နိုင်ငံခြားဆေးဝါး ကုမ္ပဏီများထံမှ Under Licence ရယူရန်နှင့် ရင်းနှီးမြှုပ်နှံမှု အသစ်ဖြင့် ပြန်လည်တင်ပြရန် လမ်းညွှန်ခဲ့ပါကြောင်း၊ သို့ပါ၍ Norwich Pharmaceuticals Industrial —USA ထံမှ Under Licence နှင့် Brand ရယူ၍ လုပ်ငန်းအသစ်အနေဖြင့် ကော်မရှင်သို့ အဆိုပြုတင်ပြခြင်း ဖြစ်ပါကြောင်း ရှင်းလင်းတင်ပြထားပါသည်။

(ဂ) ယခု အဆိုပြုတင်ပြချက်နှင့် စပ်လျဉ်း၍ ကုမ္ပဏီသည် စက်မှုဝန်ကြီးဌာန၊ ကျန်းမာရေးဝန်ကြီးဌာနနှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့၏ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုတင်ပြထားပါသည်။

(ဃ) ဆေးဝါးများ ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ Pacific Medical Industries Co., Ltd, Fame Pharmaceutical Industry Co., Ltd. နှင့် Myanmar Golden Earth Co., Ltd. တို့အား ကော်မရှင်၏ (၂၅/၂၀၁၁)(၂၃-၁၁-၂၀၁၁) ကြိမ်မြောက် အစည်းအဝေး မှ ယာယီခွင့်ပြုမိန့် ထုတ်ပေးခဲ့ပြီး Sagaing June Pharmaceutical & Foodstuff Industry Ltd အား ကော်မရှင်၏(၁၀/၂၀၁၃)(၁၃-၃-၂၀၁၃)ကြိမ်မြောက် အစည်းအဝေးမှ ခွင့်ပြုမိန့်အမှတ်၊ မနသ-၈၉၁/၂၀၁၃ (၁၃-၃-၂၀၁၃)ဖြင့် ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပြီးဖြစ်ပါသည်။

၁၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကိုလည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုလည်းကောင်း ခံစားခွင့်ပြုရပါမည်။

၁၄။ သို့ဖြစ်ပါ၍ Silver Shine International Co., Ltd မှ ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုန်တွင် နိုင်ငံတကာအဆင့်မီ အနောက်တိုင်းဆေးဝါး အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းအပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(ချိုချိုဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူ - ရုံးလက်ခံ



Silver Shine MIC.docx

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

တယ်လီဖုန်း ၀၁-၆၅၇၈၂၄
ဖက်(စ်) ၀၁-၆၅၇၈၂၄

စာအမှတ်၊ ရက - ၉ / ၁ / ၂၀၁၆ ( ၀၅၉၄ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၅ ရက်

အကြောင်းအရာ။ Silver Shine International Co., Ltd. မှ လုပ်ငန်းသုံးပစ္စည်းများနှင့် စက်ပစ္စည်းများအား ရင်းနှီးမြှုပ်နှံမှုတိုးမြှင့်၍ ပြင်ဆင် တင်သွင်းခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စ

ရည် ညွှန်း ချက် ။ Silver Shine International Co., Ltd. ၏ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၃၀ ရက်နေ့ ရက်စွဲပါ စာအမှတ်၊ ရ-ဆ၀သ/၂၀၁၅(တ-၉)

၁။ Silver Shine International Co., Ltd. မှ နိုင်ငံတကာ အဆင့်မီ အနောက်တိုင်း ဆေးဝါး အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းတွင် အသုံးပြုရန် စက်ပစ္စည်းများနှင့် လုပ်ငန်းသုံးပစ္စည်းများအား ရင်းနှီးမြှုပ်နှံမှုတိုးမြှင့်၍ တင်သွင်းခွင့်ပြုပါရန် ရည်ညွှန်းပါစာဖြင့် တင်ပြလာသည့် ကိစ္စနှင့်စပ်လျဉ်း၍ ကော်မရှင်မှ အောက်ပါအတိုင်း ဆောင်ရွက်ခွင့်ပြုကြောင်း အကြောင်းကြားပါသည်-

(က) မူလအဆိုပြုချက်ပါ စက်ပစ္စည်းနှင့် လုပ်ငန်းသုံးပစ္စည်း စုစုပေါင်း (၄၄)မျိုး တန်ဖိုး အမေရိကန်ဒေါ်လာ ၈၀၇,၀၀၀ အစား စက်ပစ္စည်းနှင့်လုပ်ငန်းသုံးပစ္စည်း စုစုပေါင်း (၃၁)မျိုးတန်ဖိုး အမေရိကန်ဒေါ်လာ ၁,၇၆၈,၈၈၆.၅၇ အား ရင်းနှီးမြှုပ်နှံမှုတိုးမြှင့်၍ အခွန်အကောက်ကင်းလွတ်ခွင့်ဖြင့် ပြင်ဆင်တင်သွင်းခွင့်ပြုပါသည်။

(ခ) မူလ မတည်ရင်းနှီးငွေ ပမာဏအား အမေရိကန်ဒေါ်လာ ၀.၈၆ သန်းအပါအဝင် စုစုပေါင်း ကျပ် ၂၁၁၀.၀၀ သန်းမှ အမေရိကန်ဒေါ်လာ ၁.၈၃ သန်း အပါအဝင် စုစုပေါင်းကျပ် ၃၃၆၀.၄၅ သန်းသို့ တိုးမြှင့်ပြင်ဆင်ခွင့်ပြုပါသည်။

၂။ သို့ဖြစ်ပါ၍ ကော်မရှင် ဆုံးဖြတ်ချက်အား သိရှိနိုင်ပါရန်နှင့် လိုအပ်သလို ဆက်လက် ဆောင်ရွက်နိုင်ပါရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မန်နေဂျင်းဒါရိုက်တာ
Silver Shine International Co., Ltd.

မိတ္တူကို
ရုံးလက်ခံ၊မျှောစာတွဲ

# SILVER SHINE INTERNATIONAL COMPANY LIMITED.

Regd. : No. 1344, (1994-95)
Ref. :
Date :

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ရက်စွဲ ။ ။ ၂၀၁၃ ခုနှစ်၊ မေ လ၊ (၁) ရက်။

အကြောင်းအရာ။ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန်ကိစ္စ။**

ရည်ညွှန်းချက် ။ (၁) Silver Shine International Co., Ltd. ၏ (၇-၂-၂၀၁၃) ရက်စွဲပါစာ

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁-၂-၂၀၁၃ ရက်စွဲပါ၊ စာအမှတ်၊ ရက-၆(က)၊ မ-၁၃၁၂ / ၂၀၁၃ ( ၂၃၅၆ - တ )

(၃) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ ၁၂-၃-၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ၂/၂၂၀ (ခ) (၆) ( ၁၈၀၈ / ၂၀၁၃ )

(၄) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၃-၂၀၁၃ ရက်စွဲပါ၊ စာအမှတ်၊ ရက - ၆ ( က )/ မ-၁၃၁၂ / ၂၀၁၃( ၃၆၂၉ - ဏ )

၁။ Silver Shine International Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၁၈)၊ မြေကွက်အမှတ် (၂၄+၃၁သီ) ရှိ မြေ (၀.၅၉၃) ဧက၊ မြေကွက်အမှတ် (၂၈+၂၉)ရှိ မြေ (၁.၀၂၅) ဧက၊ မြေကွက်အမှတ် (၃၁အေ) ရှိ မြေ (၀.၆၂၁) ဧကနှင့် မြေကွက်အမှတ် (၃၀) ရှိ မြေ (၀.၅၁၈) ဧက၊ စုစုပေါင်းမြေ (၂.၇၅၇) ဧကတွင် အနောက်တိုင်း အိမ်သုံးဆေးဝါးများ ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းပါစာ (၁) ဖြင့် တင်ပြခဲ့ပါသည်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရည်ညွှန်းပါစာ (၂) ဖြင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံခဲ့ရာ ရည်ညွှန်းပါ (၃) စာဖြင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပြန်ကြား ပေးပို့ခဲ့ပါသည်။

၂။ အထက်ရည်ညွှန်းပါ (၃) နှင့် (၄) အပေါ် Silver Shine International Co., Ltd. သည် အနောက်တိုင်း အိမ်သုံးဆေးဝါးများ ထုတ်လုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်ရန်ကိစ္စနှင့် စပ်လျဉ်း၍ ပြုပြင်စီစဉ် ဆောင်ရွက်မည့် လုပ်ငန်းများအား အောက်ပါအတိုင်းပြန်လည်တင်ပြအပ်ပါသည် -

(က) လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်လူမှုရေးနှင့် ကျန်းမာရေး ထိခိုက် ပျက်စီးမှုများနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ရပ်ကွက်နေ ပြည်သူများ၏ လူမှုရေးနှင့် ကျန်းမာရေးကိစ္စများကို ပံ့ပိုးကူညီထောက်ပံ့ပေးမည့် အစီအစဉ်များထည့်သွင်း ရေးဆွဲသွားပါမည်။

SILVER SHINE INTERNATIONAL
COMPANY LIMITED.

Regd. : No. 1344, (1994-95)

Ref. :

Date :



(ခ) လေကောင်းလေသန့်ရရှိရေး၊ ရေသန့်ရရှိရေး ပတ်ဝန်းကျင် သန့်ရှင်းကောင်းမွန်ရေးအတွက် ရေစီး၊ ရေလာစနစ်နှင့် စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုကို ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီနှင့် မြို့နယ်ကျန်းမာရေးဌာနတို့၏ ညွှန်ကြားချက်အတိုင်း လိုက်နာဆောင်ရွက်သွားပါမည်။ စက်ရုံမှ ရေဆိုးစွန့်ပစ်မှုအစီအစဉ်နှင့် စပ်လျဉ်း၍ သတ်မှတ်စံချိန်စံညွှန်းများနှင့်အညီ Waste Water Treatment Plant ကို မြန်မာနိုင်ငံအခြေစိုက် Boustead Salcon Water Solutions Pte.Ltd ( Singapore ) နှင့် လုပ်ငန်းအပ်နှံပြီး တပ်ဆင်သွားမည်ဖြစ်ပါသည်။

(ဂ) ဆေးဝါးစက်ရုံတည်ဆောက်မှုနှင့် ဆေးဝါးထုပ်လုပ်မှုတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကျန်းမာရေးဝန်ကြီးဌာနနှင့် ကမ္ဘာ့ကျန်းမာရေးအဖွဲ့ ( WHO ) ၏ ကောင်းမွန်သော ဆေးဝါးထုတ်လုပ်မှု ကျင့်စဉ်များ ( Good Manufacturing Practice - GMP) တို့ကို အသုံးပြု၍ တည်ဆောက်သွားပါမည်။ ၎င်းအပြင် မြန်မာနိုင်ငံအစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဌာန ( Myanmar FDA )၏ အသိအမှတ်ပြုမှုကို စစ်ဆေးခံယူမည်ဖြစ်ပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ပတ်ဝန်းကျင်နှင့် ကျန်းမာရေးထိခိုက်မှုများ မဖြစ်စေရေးအတွက် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ချက် (Enviromental Impact Assessment - EIA) ဆန်းစစ်တွေ့ရှိချက်များကို အခြေခံ၍ သဘာဝပတ်ဝန်းကျင် ထိခိုက်မှုမဖြစ်စေရန် (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရန် ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက် ( Environmental Management Plan-EMP ) ကို ရန်ကုန်မြို့ရှိ သဘာဝပတ်ဝန်းကျင်ဆိုင်ရာ လေ့လာရေးလုပ်ငန်းဆောင်ရွက်နေသည့် ( Resource and Environment Myanmar Ltd ) နှင့် ဆက်သွယ်၍ ရေးဆွဲနေပါသည်၊ ဆက်လက်တင်ပြသွားပါမည်။

၃။ Resource and Environment Myanmar Ltd နှင့် စီမံချက်များကိုရေးဆွဲပြီး ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနနှင့် သက်ဆိုင်ရာဝန်ကြီးဌာနအသီးသီးတို့မှ ထုတ်ပြန်ထားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ မူဝါဒ၊ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းများနှင့် ညွှန်ကြားချက်များကို တိကျစွာလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းတင်ပြအပ်ပါသည်။

လေး စား စွာ ဖြင့်

(signature)

ဖေလှိုင်

အုပ်ချုပ်မှုဒါရိုက်တာ

Silver Shine International Co.,Ltd

မိတ္တူ။ -

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန
ရုံး/မှော

Regd. : No. 1344, (1994-95)

Ref. :

Date :

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ရက်စွဲ ။ ။ ၂၀၁၃ ခုနှစ်၊ မေ လ၊ ( ၁ ) ရက်။

အကြောင်းအရာ။ ။ **စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အပေါ် လိုက်နာဆောင်ရွက်မည့် အစီအစဉ်များပြန်လည်တင်ပြခြင်း။**

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၂၆ – ၄ – ၂၀၁၃ ) ရက်စွဲပါ စာအမှတ် – ရ က – ၆ ( က ) / မ – ၁၃၁၂ / ၂၀၁၃ ( ၅၀၇၆ )

၁။ Silver Shine International Co.,Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုန်တွင် အနောက်တိုင်းအိမ်သုံးဆေးဝါး ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ရန် ကိစ္စရပ်အပေါ် စက်မှုဝန်ကြီးဌာန၏ စိစစ်တွေ့ရှိချက်များနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်းလိုက်နာဆောင်ရွက်ပြီး အမျိုးသားဆေးဝါးဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေ၊ တည်ဆဲဥပဒေ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း အောက်ပါအချက်များဖြင့် ပြန်လည်တင်ပြအစီရင်ခံအပ်ပါသည်။

(က) Silver Shine International Co.,Ltd. ၏ ထုတ်လုပ်မည့် ဆေးဝါးအမျိုးအစားများနှင့်စပ်လျဉ်း၍ ပြည်တွင်း၌ လိုအပ်သည့် အဓိကဆေးဝါး Essential Drugs / အိမ်သုံးဆေးဝါးများဖြစ်သော Generic Products များကို အခြေခံအသုံးပြုသော (OTC - Over the Counter) ဆေးများကိုသာ ကနဦးထုတ်လုပ်ရန် ရည်မှန်းထားပါသည်။ နောင်အခါ နိုင်ငံခြားကုမ္ပဏီနှင့် ဖက်စပ်ဆောင်ရွက်ခြင်း (Joint - Venture) ပြုလုပ်သည့်အခါမှသာ Antibiotics (Beta - lactum / Non - Beta - lactum) ဆေးများကို ထုတ်လုပ်သွားမည်ဖြစ်ပါသည်။

(ခ) ဆေးဝါးထုတ်လုပ်ရာတွင် အသုံးပြုမည့်စက်ပစ္စည်းကိရိယာများကို နိုင်ငံတကာအသိအမှတ်ပြု ( GMP , ISO ) လက်မှတ်ရရှိထားသော နိုင်ငံခြားကုမ္ပဏီများမှ ဝယ်ယူတင်သွင်းသွားမည် ဖြစ်ပါသည်။ အရည်အသွေးစစ်ဆေးခြင်း၊ ထိန်းသိမ်းခြင်း(Quality Control Laboratory) အတွက် လိုအပ်သော စက်ပစ္စည်းကိရိယာများကို နိုင်ငံခြားမှ ဝယ်ယူတင်သွင်းရန် နောက်ဆက်တွဲဇယား (၃) ဖြင့် တင်ပြထားပါသည်။ နိုင်ငံတကာ အသိအမှတ်ပြုဆေးကျမ်းများဖြစ်သည့် BP(British Pharmacopoeia), USP (United State Pharmacopoeia) , IP ( International Pharmacopoeia ) စံချိန်စံညွှန်းများ အတိုင်း လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

# SILVER SHINE INTERNATIONAL COMPANY LIMITED.

Regd. : No. 1344, (1994-95)

Ref. :

Date :




(ဂ) ထုတ်လုပ်မှုနှင့်စက်စွမ်းအားများ ကိုက်ညီမှုရှိစေရန်အတွက် Silver Shine International Co,Ltd.သည် Under licence ပေးသော Alvogen Company၏ စံချိန်စံညွှန်းအရ နိုင်ငံခြားကျွမ်းကျင်ပညာရှင်များမှ စနစ်တကျတွက်ချက်မှုဖြင့် ဆေးဝါးစက်ရုံအတွက် လိုအပ်သော GMP / Design / Capacity / Machinery & Equipment များဖြင့် တည်ဆောက်မည်ဖြစ်ပါသည်။

(ဃ) Silver Shine International Co , Ltd . အနေဖြင့် အမျိုးသားဆေးဝါးဥပဒေ (National Drug Law) အရ မြန်မာနိုင်ငံအစားသောက်နှင့်ဆေးဝါးအာဏာပိုင်အဖွဲ့၏ ခွင့်ပြုချက်များရယူပြီး အမျိုးသားဆေးဝါးဥပဒေနှင့်အညီလိုက်နာဆောင်ရွက်ပါမည်။ ပြည်သူလူထုကျန်းမာရေးလုပ်ငန်းများ မြှင့်တင် နိုင်ရေးနှင့် ပြည်ပဆေးဝါးတင်သွင်းမှုအစားထိုးနိုင်ရေးအတွက် အရည်အသွေးစစ်မှန်ကောင်းမွန်ပြီး ဘေးဥပဒ်အန္တရာယ်ကင်းရှင်းသော ဆေးဝါးများထုတ်လုပ်သွားမည်ဖြစ်ပါသည်။

လေး စား စွာ ဖြင့်

ဖေလှိုင်

အုပ်ချုပ်မှုဒါရိုက်တာ

Silver Shine International Co.,Ltd

# SILVER SHINE INTERNATIONAL COMPANY LIMITED.

Regd. : No. 1344, (1994-95)

Ref. :

Date :

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ရက်စွဲ ။ ။ ၂၀၁၃ ခုနှစ်၊ မေ လ၊ (၁) ရက်။

အကြောင်းအရာ ။ **ကျန်းမာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြခြင်းကိစ္စ။**

ရည်ညွှန်းချက် ။ (၁) Silver Shine International Co., Ltd. ၏ (၇-၂-၂၀၁၃) ရက်စွဲပါစာ

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁-၂-၂၀၁၃ ရက်စွဲပါ၊
စာအမှတ်၊ ရ က - ၆ ( က )/ မ-၁၃၁၂ / ၂၀၁၃ ( ၂၃၅၆ - ဏ )

(၃) ကျန်းမာရေးဝန်ကြီးဌာန၏ ၂၇-၂-၂၀၁၃ ရက်စွဲပါ
စာအမှတ်၊ ၁ မ ခ ( ရ ) ၂၀၁၃ ( ၃၈၅ ) / ၂၆၉၉

(၄) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆-၃-၂၀၁၃ ရက်စွဲပါ၊
စာအမှတ်၊ ရက - ၆ ( က )/ မ - ၁၃၁၂ / ၂၀၁၃ ( ၃၀၅၄ - င )

၁။ Silver Shine International Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၁၈)၊ မြေကွက်အမှတ် (၂၄+၃၁ဘီ) ရှိ မြေ (၀.၅၉၃) ကေ၊ မြေကွက်အမှတ် (၂၈+၂၉)ရှိ မြေ (၁.၀၂၅) ကေ၊ မြေကွက်အမှတ် (၃၁အေ) ရှိ မြေ (၀.၆၂၁) ကေနှင့် မြေကွက်အမှတ် (၃၀) ရှိ မြေ (၀.၅၁၈) ကေ၊ စုစုပေါင်းမြေ (၂.၇၅၇) ကေတွင် အနောက်တိုင်း အိမ်သုံးဆေးဝါးများ ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းပါစာ (၁) အဆိုပြုချက် တင်ပြခဲ့ခြင်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက် (၂) ပါ စာဖြင့် ကျန်းမာရေးဝန်ကြီးဌာနသို့ တောင်းခံခဲ့ရာ၊ ရည်ညွှန်း (၃) ပါ စာဖြင့် ကျန်းမာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပြန်ကြားပေးပို့ခဲ့ပါသည်။

၂။ အထက်ရည်ညွှန်းပါ (၃) နှင့် (၄) အပေါ် Silver Shine International Co., Ltd. သည် အနောက်တိုင်းဆေးဝါးများ ထုတ်လုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်ရန်ကိစ္စနှင့်စပ်လျဉ်း၍ ပြုပြင်စီစဉ် ဆောင်ရွက်မည့်လုပ်ငန်းများအား အောက်ပါအတိုင်းပြန်လည်တင်ပြအပ်ပါသည် -

(က) ဆေးဝါးထုတ်လုပ်မှုအတွက် လုပ်ငန်းအတွေ့အကြုံရှိသည့် ပညာရှင်များအား ဖွဲ့စည်းပုံ စာရင်းတွင် တိုးမြှင့်ခန့်ထားပြီးဖြစ်ပါသည်။ ကျွန်တော်များ ကုမ္ပဏီအား Under Licence ပေးသော ပြည်ပရှိ Alvogen Company ၏ ပံ့ပိုးမှုဖြင့် နိုင်ငံခြားပညာရှင် များကိုပါ ခန့်ထားဆောင်ရွက်သွားမည်ဖြစ်ပါသည်။

# SILVER SHINE INTERNATIONAL COMPANY LIMITED.

Regd. : No. 1344, (1994-95)

Ref. :

Date :




(၁) ထုတ်လုပ်မည့်ဆေးဝါးအမျိုးအစားများအား ကျန်းမာရေးဝန်ကြီးဌာနမှ ထုတ်ပြန်ထားသော ပြည်တွင်း၌ လိုအပ်သည့် အဓိကဆေးဝါး ( **Essential Drug** ) စာရင်းတွင် ပါဝင်သော **(Generic Products)** များကို အခြေခံအသုံးပြုသော အိမ်သုံးဆေးဝါးများ **(OTC-Over the Counter)** အမျိုးအစားများကိုသာ ပြန်လည်ရွေးချယ်တင်ပြထားပြီး ဖြစ်ပါသည်။ ထုတ်လုပ်မှုအနေဖြင့် ဆေးဝါးအမျိုးအစားများကို နှစ်အလိုက်ခွဲခြား ထုတ်လုပ်သွားမည်ဖြစ်ပါသည်။ ဆေးဝါးထုတ်လုပ်ရာတွင် အသုံးပြုမည့် စက်ပစ္စည်းများကို နိုင်ငံတကာအသိအမှတ်ပြု ( **GMP, ISO** ) လက်မှတ်ရရှိထားသော အဆင့်မြင့် နိုင်ငံများမှ ရွေးချယ်ဝယ်ယူသွားရန် စက်ဈေးနှုန်းများကို ပြင်ဆင်တင်ပြ ထားပါသည်။ **Silver Shine International Co., Ltd.** ၏ ဆေးဝါးစက်ရုံကို နိုင်ငံတကာဆင့် အစစ်ဆေးခံနိုင်သော ဆေးဝါးစက်ရုံအဖြစ်တည်ဆောက်သွားမည်ဖြစ်ပါသည်။

(၈) ဆေးဝါးထုတ်လုပ်မှုဆောင်ရွက်ရာတွင် ကမ္ဘာ့ကျန်းမာရေးအဖွဲ့ **(WHO)** မှ ချမှတ်ထားသော **"ကောင်းမွန်သောထုတ်လုပ်မှုကျင့်စဉ်" (Good Manufacturing Practices for Pharmaceutical Products), (GMP)** ကျင့်စဉ်များကို တိကျစွာလိုက်နာ ဆောင်ရွက်သွားပါမည်။ အရည်အသွေးစစ်ဆေးခြင်းဆိုင်ရာလိုက်နာရမည့် စံသတ်မှတ်ချက်များကို နိုင်ငံတကာ အသိအမှတ်ပြု ဆေးကျမ်းများဖြစ်သည့် **BP (British Pharmacopoeias), USP (United State Pharmacopeias), IP (International Pharmacopoeias)**နှင့်အညီ အဆင့်မြင့်ဓါတ်ခွဲခန်းထားရှိပြီး **(Good Laboratory Practice) (GLP)** ကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါသည်။

လေး စား စွာ ဖြင့်

ဖေလှိုင်

အုပ်ချုပ်မှုဒါရိုက်တာ

**Silver Shine International Co.,Ltd**

NO.26,MAHAZAYA STREET,YAYKYAW QUARTER,PAZUNDAUNG TOWNSHIP,YANGON,MYANMAR.

# SILVER SHINE INTERNATIONAL COMPANY LIMITED.

Regd. : No. 1344, (1994-95)


Ref. :

Date :

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ရက်စွဲ ။ ။ ၂၀၁၃ ခုနှစ်၊ မေ လ၊ ( ၁ ) ရက်။

အကြောင်းအရာ ။ **Silver Shine International Co., Ltd. မှ အနောက်တိုင်း အိမ်သုံးဆေးဝါး ထုတ်လုပ်ခြင်းလုပ်ငန်း အဆိုပြုတင်ပြခြင်းကိစ္စ။**

ရည်ညွှန်းချက် ။ (၁) Silver Shine International Co., Ltd. ၏ ၇–၂–၂၀၁၃ ရက်စွဲပါစာ

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၈–၂–၂၀၁၃ ရက်စွဲပါ၊ စာအမှတ်၊ ရက – ၆( က )၊ မ–၁၃၁၂ / ၂၀၁၃ ( ၂၇၆၇ )

၁။ Silver Shine International Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၁၈)၊ မြေကွက်အမှတ် (၂၄+၃၁ ဘီ) ရှိ မြေ (၀.၅၉၃) ဧက၊ မြေကွက်အမှတ် (၂၈+၂၉)ရှိ မြေ (၁.၀၂၅) ဧက၊ မြေကွက်အမှတ် (၃၁အေ) ရှိ မြေ (၀.၆၂၁) ဧကနှင့် မြေကွက်အမှတ် (၃၀) ရှိ မြေ (၀.၅၁၈) ဧက၊ စုစုပေါင်းမြေ (၂.၇၅၇) ဧကတွင် အနောက်တိုင်း အိမ်သုံးဆေးဝါးများ ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်း (၁) ပါစာဖြင့် အဆိုပြုတင်ပြခဲ့ရာ ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်းရှာဖွေမြှင့်တင်ရေးအဖွဲ့၏ ( ၇/၂၀၁၃ ) ( ၁၄–၂–၂၀၁၃ ) အစည်းအဝေးမှ ဆုံးဖြတ်ချက်များကို ရည်ညွှန်း (၂) ပါစာဖြင့် ကုမ္ပဏီသို့ သိရှိနိုင်ပါရန်နှင့် ပြန်လည်တင်ပြရန် အကြောင်းကြားခဲ့ပါသည်။

၂။ အထက်ရည်ညွှန်းပါ (၂) အပေါ် Silver Shine International Co., Ltd. သည် ဆောင်ရွက်ပြီးစီးသည့် အခြေအနေများအား အောက်ပါအတိုင်းပြန်လည်တင်ပြအပ်ပါသည်။

(က) ထုတ်လုပ်မည့်ဆေးဝါး (ကုန်ချော) နှင့် လိုအပ်မည့် ကုန်ကြမ်းများကို နှစ်အလိုက် ခွဲခြားပြီး နောက်ဆက်တွဲ (၅)ဖြင့် တင်ပြထားပါသည်။

(ခ) စက်ရုံမြေအားရင်းနှီးမြှုပ်နှံမှုအဖြစ် ဖော်ပြထားပါသဖြင့် ကုမ္ပဏီအမည်ပေါက်ရရှိရန် သက်ဆိုင်ရာဌာနများ၏ လုပ်ထုံးလုပ်နည်းများအတိုင်း ဆက်လက်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။


NO.26,MAHAZAYA STREET,YAYKYAW QUARTER,PAZUNDAUNG TOWNSHIP,YANGON,MYANMAR.

# SILVER SHINE INTERNATIONAL COMPANY LIMITED.

Regd. : No. 1344, (1994-95)

Ref. :

Date :



(ဂ) ထုပ်လုပ်မည့်ဆေးဝါးပမာဏနှင့် စက်ပစ္စည်းများကိုက်ညီမှုရှိစေပြီး ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်းသို့ တင်ပြရာ လူအင်အားနှင့် ကုန်ကြမ်း၊ ကုန်ချော ညီညွတ်မှုရှိကြောင်း မှတ်ချက်ရရှိပြီးဖြစ်ပါသည်။

(ဃ) ပညာရှင်များနှင့် အဆင့်ဆင့် ကျွမ်းကျင်လုပ်သားများအတွက် အခြေခံလစာကို ပျမ်းမျှကျပ် နှစ်သိန်းနှုန်းဖြင့် တွက်ချက်တင်ပြထားပါသည်။ ဝန်ထမ်းများ၏ ဝင်ငွေခွန်များကို သတ်မှတ်နှုန်းထားများအတိုင်း လစာမှ ဖြတ်တောက်၍ ပြည်တွင်းအခွန်များဦးစီးဌာနသို့ ပေးသွင်းသွားမည်ဖြစ်ပါသည်။

(င) စက်ရုံမှ ရေဆိုးစွန့်ပစ်မှုအစီအစဉ်နှင့် စပ်လျဉ်း၍ သတ်မှတ်စံချိန်စံညွှန်းများနှင့်အညီ Waste Water Treatment Plant ကို မြန်မာနိုင်ငံအခြေစိုက် Boustead Salcon Wafer Solutions Pte.Ltd ( Singapore ) နှင့် လုပ်ငန်းအပ်နှံပြီး တပ်ဆင်သွားမည်ဖြစ်ပါသည်။

လေး စား စွာ ဖြင့်

ဖေလှိုင်

အုပ်ချုပ်မှုဒါရိုက်တာ

Silver Shine International Co.,Ltd

NO.26,MAHAZAYA STREET,YAYKYAW QUARTER,PAZUNDAUNG TOWNSHIP,YANGON,MYANMAR.

# SILVER SHINE INTERNATIONAL COMPANY LIMITED.

Regd. : No. 1344, (1994-95)

Ref. :

Date :

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

ရက်စွဲ။ ။ ၂၀၁၃ ခုနှစ်၊ မေ လ ( ၁ ) ရက်။

အကြောင်းအရာ။ ။ <u>နိုင်ငံခြားငွေကြေးနှင့်ပတ်သက်၍ ရှင်းလင်းတင်ပြခြင်း။</u>

ကျွန်တော်တို့၏ SILVER SHINE INTERNAITONAL COMPANY LIMITED. ၏ နိုင်ငံခြားငွေကြေးလက်ကျန်မှာ အမေရိကန်ဒေါ်လာ ၁၇၅၈၅၇/- ဖြစ်၍ လုပ်ငန်းအတွက်သုံးစွဲရန် နိုင်ငံခြားငွေတန်ဖိုးမှာ အမေရိကန်ဒေါ်လာ ၈၆၃၉၅၀/- ဖြစ်နေသော်လည်း ကျွန်တော်တို့၏ မြန်မာကျပ်ငွေလက်ကျန်မှာ ကျပ် သန်းပေါင်း ၁၀၂၆ ကျော်ရှိပါသည်။ လုပ်ငန်းအတွက် သုံးစွဲရန် မြေနှင့်အခြေခံအဆောက်အဦး ( Infrastructure ) မှာ ဝယ်ယူဆောက်လုပ်ပြီးဖြစ်သဖြင့် အမှန်တကယ်သုံးစွဲရန် ငွေကျပ်မှာ ကျပ်သန်း ၁၀၆ ကျော်သာကျန်ရှိပါသည်။

သို့ဖြစ်၍ ကျပ်ငွေလက်ကျန် ကျပ်သန်းပေါင်း ၉၂၀ ကျော်ကို ယခုလက်ရှိ ငွေလဲလှယ်ငွေကြေးနှုန်း တစ်ဒေါ်လာလျှင် ငွေကျပ် ၉၀၀/- ခန့်ဖြင့်တွက်ချက်ပါက အမေရိကန်ဒေါ်လာ ၁,၀၂၂,၂၀၀ ကျော်ရရှိလာမည်ဖြစ်ပါသဖြင့် သုံးစွဲရန်ရှိသော နိုင်ငံခြားငွေကြေးပမာဏကို ပြည့်မီကြောင်း တင်ပြအပ်ပါသည်။

လေး စား စွာ ဖြင့်

( ဦး ဖေ လှိုင် )
အုပ်ချုပ်မှုဒါရိုက်တာ
SILVER SHINE INTERNATIONAL CO., LTD.

NO.26,MAHAZAYA STREET,YAYKYAW QUARTER,PAZUNDAUNG TOWNSHIP,YANGON,MYANMAR.
Phone : 951-298708,297173,4412489 Email: ssi@baganmail.net.mm

# SILVER SHINE INTERNATIONAL COMPANY LIMITED.

Regd. : No. 1344, (1994-95)

Ref. :

Date :

သို့

ညွှန်ကြားရေးမှူးချုပ်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

ရက်စွဲ။ ။ ၂၀၁၃ ခုနှစ်၊ မေ လ ( ၁ ) ရက်။

**အကြောင်းအရာ။** **။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိခံဝန်ချက်များ ထပ်မံပေးပို့ခြင်း။**

ကျွန်တော်တို့၏ **SILVER SHINE INTERNAITONAL COMPANY LIMITED.** သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် အဆင့်မြင့်ထုတ်လုပ်မှုနည်းပညာစနစ်သုံး နိုင်ငံတကာအဆင့်မီအနောက်တိုင်း အိမ်သုံးဆေးဝါးများထုတ်လုပ်သည့်စက်ရုံကို **(U.S., EUROPE AND ASIA-PACIFIC REGIONS)** အပါအဝင် ကမ္ဘာ့နိုင်ငံပေါင်း(၂၀)ကျော်တွင် အဆင့်မြင့်ဆေးဝါးအမျိုး (၂၀၀)ကျော် ထုတ်လုပ်ဖြန့်ဖြူးလျှက်ရှိသော **ALVOGEN IPCo S.AR.L, LUXEMBOURG** နိုင်ငံ၏ **UNDER LICENCE** နှင့် **BRAND** သုံးစွဲခွင့်ရယူပြီး အမေရိကန်နိုင်ငံ နယူးယောက်မြို့ရှိ **NORWICH PHARMACEUTICALS INDUSTRIAL, USA** ၏ **CURRENT - GMP** စံချိန်စံညွှန်းများအတိုင်း အဆင့်မြင့်နည်းပညာအကူအညီဖြင့် တည်ဆောက်၍ နိုင်ငံတကာ အဆင့်မီအနောက်တိုင်းအိမ်သုံးဆေးဝါး အမျိုးမျိုး **(OTC DRUGS)** နှင့် အဓိကဆေးဝါး **(ESSENTIAL DRUGS)** များကိုထုတ်လုပ်၍ ပြည်တွင်းသို့ဈေးနှုန်းချိုသာစွာ ဖြင့် ထုတ်လုပ်ဖြန့်ဖြူးရန်ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

ဤလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း ကတိခံဝန်ချက်များ ထပ်မံတင်ပြအပ်ပါသည်။

၁။ ဆေးဝါးစက်ရုံအတွက် လိုအပ်သောကျွမ်းကျင်ပညာရှင်ဝန်ထမ်းများကို လိုအပ်လျှင်လိုအပ်သလို ခန့်အပ်သွားပါမည်။

၂။ ကျွန်တော်တို့၏ကုမ္ပဏီသည် လုပ်ငန်းအတွက် လိုအပ်သောစက်ပစ္စည်းကိရိယာများကို ဝယ်ယူပြီးခြင်းမရှိသေးပဲ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီးမှသာ ဝယ်ယူ၍ လုပ်ငန်းစတင်လုပ်ကိုင်မည်ဖြစ်ပါသည်။

၃။ ကျွန်တော်တို့၏ကုမ္ပဏီသည် ဝန်ထမ်းများ၏လစာ တစ်နှစ်လျှင် ကျပ်(၁,၄၄၀,၀၀၀/-) အထက်ရရှိသော ဝန်ထမ်းများ၏ ဝင်ငွေခွန်ကို မြန်မာနိုင်ငံအခွန်အကောက်ဥပဒေပါနှုန်းထားများအတိုင်း စနစ်တကျဖြတ်တောက်၍ သက်ဆိုင်ရာအခွန်ဦးစီးဌာနများသို့ ပေးဆောင်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၄။ အနောက်တိုင်းဆေးဝါးများထုတ်လုပ်ရာတွင် ထုတ်လုပ်မည့်ဆေးဝါးများအား မှတ်ပုံတင်ဆောင်ရွက်ခြင်း၊ ဆေးဝါးထုတ်လုပ်ခွင့် လိုင်စင်လျှောက်ထားဆောင်ရွက်ခြင်း၊ နှင့် အခါအားလျော်စွာထုတ်ပြန်သောညွှန်ကြားချက်များကို လိုက်နာဆောင်ရွက် သွားပါမည်။

၅။ ဆေးဝါးအရည်အသွေးစစ်ဆေးသည့် လိုအပ်သောဓာတ်မီခါတ်ခွဲခန်းကို ထားရှိဆောင်ရွက်သွားပါမည်။

၆။ ဆေးဝါးထုတ်လုပ်ရာတွင် ကမ္ဘာ့ကျန်းမာရေးအဖွဲ့၏ ဆေးဝါးထုတ်လုပ်မှုကျင့်စဉ်နှင့်အညီ လိုက်နာကျင့်သုံးထုတ်လုပ် သွားပါမည်။

၇။ အမည်ပေါက် မဖြစ်သေးသော မြေများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှခွင့်ပြုချက်ရရှိပါက အမည်ပေါက်ရရှိရန် ဆောင်ရွက်သွားပါမည်။

၈။ ဆေးဝါးထုတ်လုပ်ခြင်းလုပ်ငန်းကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်ဆီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းလည်ပတ်ခြင်းနှင့်ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့၏ စီမံကိန်းဆိုင်ရာအချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကိရိယာများနှင့် ကုန်ထုတ်လုပ်မှုနည်းပညာများအသုံးပြုသွားပါမည်။

တစ် ဖက် သို့

၉။ ဆေးဝါးထုတ်လုပ်မှုလုပ်ငန်းခွင် လေကောင်းလေသန့်ရရှိရေး၊ ရေသန့်ရရှိရေးနှင့် ပတ်ဝန်းကျင်သန့်ရှင်းကောင်းမွန်ရေးအတွက် သင့်တော်မည့် ရေစီးရေလာစနစ်နှင့် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုစနစ်များ ထားရှိဆောင်ရွက်ပါမည်။

၁၀။ ဆေးဝါးစက်ရုံတည်ဆောက်မှုနှင့် ဆေးဝါးထုတ်လုပ်မှုတွင် မြန်မာနိုင်ငံကျန်းမာရေးဝန်ကြီးဌာနနှင့် ကမ္ဘာ့ကျန်းမာရေးအဖွဲ့ (WHO) ၏ကောင်းမွန်သောဆေးဝါးထုတ်လုပ်မှုကျင့်စဉ်များ (Good Manufacturing Practice - GMP) တို့ကို အသုံးပြု၍ တည်ဆောက်ထုတ်လုပ်မည်ဖြစ်ပြီး မြန်မာနိုင်ငံအစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဌာန (Myanmar FDA) ၏အသိအမှတ်ပြုမှု ရယူသွားပါမည်။

၁၁။ ဆေးဝါးထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ပတ်ဝန်းကျင်ထိခိုက်မှုများမဖြစ်စေရန်အတွက် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ချက် (Environmental Impact Assessment - EIA) ဖြင့်ဆောင်ရွက်သွားပါမည်။ အဆိုပါ ဆန်းစစ်တွေ့ရှိချက်များကိုအခြေခံ၍ သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမဖြစ်စေရန် (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရန်အတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက် ( Environmental Management Plan - EMP) ရေးဆွဲတင်ပြ၍ ဆောင်ရွက်သွားပါမည်။

၁၂။ သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ဒေသခံလူထု၏ဆန္ဒနှင့် သဘောထားရယူဆောင်ရွက်သွားပါမည်။

၁၃။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနနှင့်သက်ဆိုင်ရာဝန်ကြီးဌာနအသီးသီးတို့မှ ထုတ်ပြန်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာမူဝါဒ၊ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းများနှင့် ညွှန်ကြားချက်များကို တိကျစွာလိုက်နာဆောင်ရွက်သွားပါမည်။

၁၄။ လျှပ်စစ်မီးများပြတ်တောက်ပါက ကိုယ်ပိုင်မီးစက်ကိုအသုံးပြု၍ လျှပ်စစ်မီးထုတ်လုပ်သုံးစွဲမည်ဖြစ်ကြောင်းတင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

( ဦး ဖေ လှိုင် )
အုပ်ချုပ်မှုဒါရိုက်တာ
**SILVER SHINE INTERNATIONAL CO., LTD.**

# SILVER SHINE INTERNATIONAL COMPANY LIMITED.

Regd. : No. 1344, (1994-95)

Ref. :

Date :

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်၊

ပြည်ထောင်စုမြန်မာနိုင်ငံတော်။

ရက်စွဲ။ ။ ၂၀၁၃ ခုနှစ်၊ ဖေဖော်ဝါရီလ ( ၇ ) ရက်။

**အကြောင်းအရာ။ ။<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။</u>**

ရည်ညွှန်းချက်။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆-၄-၂၀၁၂ နေ့စွဲပါ စာအမှတ် ရက-၆(က)/မ-၁၂၀၆/၂၀၁၂(၅၃၀၇-၁၂)

ကျွန်တော်တို့၏ **SILVER SHINE INTERNAITONAL COMPANY LIMITED.** သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် အဆင့်မြင့်ထုတ်လုပ်မှုနည်းပညာစနစ်သုံး နိုင်ငံတကာအဆင့်မီအနောက်တိုင်းအိမ်သုံးဆေးဝါးများထုတ်လုပ်သည့်စက်ရုံကို **(U.S., EUROPE AND ASIA-PACIFIC REGIONS)** အပါအဝင် ကမ္ဘာ့နိုင်ငံပေါင်း(၂၀)ကျော်တွင် အဆင့်မြင့်ဆေးဝါးအမျိုး (၂၀၀)ကျော် ထုတ်လုပ်ဖြန့်ဖြူးလျှက်ရှိသော **ALVOGEN IPCo S.AR.L, LUXEMBOURG** နိုင်ငံ၏ **UNDER LICENCE** နှင့် **BRAND** သုံးစွဲခွင့်ရယူပြီး အမေရိကန်နိုင်ငံ နယူးယောက်မြို့ရှိ **NORWICH PHARMACEUTICALS INDUSTRIAL, USA** ၏ **CURRENT - GMP** စံချိန်စံညွှန်းများအတိုင်း အဆင့်မြင့်နည်းပညာအကူအညီဖြင့် တည်ဆောက်၍ နိုင်ငံတကာအဆင့်မီအနောက်တိုင်းအိမ်သုံးဆေးဝါးအမျိုးမျိုး **(OTC DRUGS)** နှင့် အဓိကဆေးဝါး **(ESSENTIAL DRUGS)** များကိုထုတ်လုပ်၍ ပြည်တွင်း၌ဈေးနှုန်းချိုသာစွာဖြင့် ထုတ်လုပ်ဖြန့်ဖြူးရန်ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

ကျွန်တော်တို့ကုမ္ပဏီသည် ၉-၁၂-၂၀၁၁ နေ့စွဲဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အိမ်သုံးဆေးဝါးထုတ်လုပ်ရန် အဆိုပြုလွှာတစ်စောင်တင်သွင်းခဲ့ပါသည်။ ကော်မရှင်မှ လုပ်ငန်းဆက်လက်ဆောင်ရွက်လိုပါက လုပ်ငန်းအသစ်၊ ရင်းနှီးမြှုပ်နှံမှုအသစ်အနေဖြင့်ပြန်လည်တင်ပြရန် အထက်ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာခဲ့ပါသည်။ သို့ဖြစ်ပါ၍ ကျွန်တော်တို့၏အဆိုပြုလွှာကို လိုအပ်သလိုစိစစ်ပေးနိုင်ရန် ပြန်လည်တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

( ဦး ဖေ လှိုင် )

အုပ်ချုပ်မှုဒါရိုက်တာ

SILVER SHINE INTERNATIONAL CO., LTD.

NO.26,MAHAZAYA STREET,YAYKYAW QUARTER,PAZUNDAUNG TOWNSHIP,YANGON,MYANMAR.
Phone : 951-298708,297173,4412489 Email: ssi@baganmail.net.mm

# SILVER SHINE INTERNATIONAL COMPANY LIMITED.

Regd. : No. 1344, (1994-95)
Ref. :
Date :

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

ရက်စွဲ။ ။ ၂၀၁၃ ခုနှစ်၊ ဖေဖော်ဝါရီလ ( ၇ ) ရက်။

**အကြောင်းအရာ။** ။<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။</u>

ကျွန်တော်တို့၏ **SILVER SHINE INTERNAITONAL COMPANY LIMITED.** သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် အဆင့်မြင့်ထုတ်လုပ်မှုနည်းပညာစနစ်သုံး နိုင်ငံတကာအဆင့်မီအနောက်တိုင်းအိမ်သုံးဆေးဝါးများထုတ်လုပ်သည့်စက်ရုံကို **(U.S., EUROPE AND ASIA-PACIFIC REGIONS)** အပါအဝင် ကမ္ဘာ့နိုင်ငံပေါင်း(၂၀)ကျော်တွင် အဆင့်မြင့်ဆေးဝါးအမျိုး (၂၀၀)ကျော် ထုတ်လုပ်ဖြန့်ဖြူးလျှက်ရှိသော **ALVOGEN IPCo S.AR.L, LUXEMBOURG** နိုင်ငံ၏ **UNDER LICENCE** နှင့် **BRAND** သုံးစွဲခွင့်ရယူပြီး အမေရိကန်နိုင်ငံ နယူးယောက်မြို့ရှိ **NORWICH PHARMACEUTICALS INDUSTRIAL, USA** ၏ **CURRENT - GMP** စံချိန်စံညွှန်းများအတိုင်း အဆင့်မြင့်နည်းပညာအကူအညီဖြင့် တည်ဆောက်၍ နိုင်ငံတကာအဆင့်မီအနောက်တိုင်းအိမ်သုံးဆေးဝါးအမျိုးမျိုး **(OTC DRUGS)** နှင့် အဓိကဆေးဝါး **(ESSENTIAL DRUGS)** များကိုထုတ်လုပ်၍ ပြည်တွင်း၌ဈေးနှုန်းချိုသာစွာဖြင့် ထုတ်လုပ်ဖြန့်ဖြူးရန်ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်တို့၏ အဆိုပြုလွှာကို လိုအပ်သလို စီစစ်ပေးနိုင်ရန် အတွက် အဆိုပြုလွှာ (၁၈) စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

( ဦး ဇေ လှိုင် )
အုပ်ချုပ်မှုဒါရိုက်တာ
SILVER SHINE INTERNATIONAL CO., LTD.

# SILVER SHINE INTERNATIONAL COMPANY LIMITED.

Regd. : No. 1344, (1994-95)
Ref. :
Date :

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

ရက်စွဲ။ ။ ၂၀၁၃ ခုနှစ်၊ ဖေဖော်ဝါရီလ (၇) ရက်။

**အကြောင်းအရာ။** **။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိခံဝန်ချက်များ ပေးပို့ခြင်း။**

ကျွန်တော်တို့၏ **SILVER SHINE INTERNAITONAL COMPANY LIMITED.** သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် အဆင့်မြင့်ထုတ်လုပ်မှုနည်းပညာစနစ်သုံး နိုင်ငံတကာအဆင့်မီအနောက်တိုင်း အိမ်သုံးဆေးဝါးများထုတ်လုပ်သည့်စက်ရုံကို **(U.S., EUROPE AND ASIA-PACIFIC REGIONS)** အပါအဝင် ကမ္ဘာ့နိုင်ငံပေါင်း(၂၀)ကျော်တွင် အဆင့်မြင့်ဆေးဝါးအမျိုး (၂၀၀)ကျော် ထုတ်လုပ်ဖြန့်ဖြူးလျက်ရှိသော **ALVOGEN IPCo S.AR.L, LUXEMBOURG** နိုင်ငံ၏ **UNDER LICENCE** နှင့် **BRAND** သုံးစွဲခွင့်ရယူပြီး အမေရိကန်နိုင်ငံ နယူးယောက်မြို့ရှိ **NORWICH PHARMACEUTICALS INDUSTRIAL, USA** ၏ **CURRENT - GMP** စံချိန်စံညွှန်းများအတိုင်း အဆင့်မြင့်နည်းပညာအကူအညီဖြင့် တည်ဆောက်၍ နိုင်ငံတကာ အဆင့်မီအနောက်တိုင်းအိမ်သုံးဆေးဝါးအမျိုးမျိုး **(OTC DRUGS)** နှင့် အဓိကဆေးဝါး **(ESSENTIAL DRUGS)** များကိုထုတ်လုပ်၍ ပြည်တွင်း၌ဈေးနှုန်းချိုသာစွာဖြင့် ထုတ်လုပ်ဖြန့်ဖြူးရန်ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင်နိုင်ငံခြားမှ မည်သူမှ ပိုင်ဆိုင်မှုမရှိကြောင်းနှင့် အောက်ပါအချက်များကို သိရှိလိုက်နာမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

၁။ ကျွန်တော်တို့ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်းပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ ကြိုတင်ကာကွယ်မှုများပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်းနှင့် မီးဘေးကြိုတင်ကာကွယ်မှုများ ပြုလုပ်၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၂။ **SILVER SHINE INTERNATIONAL CO., LTD.** သည်လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းကိရိယာများ၊ စက်အရန်ပစ္စည်းများ၊ နှင့် ကုန်ကြမ်းပစ္စည်းများကို မိမိပိုင်နိုင်ငံခြားငွေများဖြင့် ဟောင်ကောင်ရှိ **ALVOGEN Asia Pacific Holding Ltd.** မှ ဝယ်ယူတင်သွင်းမည်ဖြစ်ပါသည်။

၃။ ထို့အပြင် နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

၄။ လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိပါက ပုဂ္ဂလိကစက်မှုလုပ်ငန်းမှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၅။ ဆေးဝါးထုတ်လုပ်ရာ၌ ကျွမ်းကျင်ပညာရှင်များခန့်အပ်လုပ်ကိုင်ခြင်း၊ ထုတ်လုပ်မည့်ဆေးဝါးများကို မြန်မာနိုင်ငံအစားအသောက်နှင့် ဆေးဝါးအာဏာပိုင်အဖွဲ့တွင်မှတ်ပုံတင်ဆောင်ရွက်ခြင်း၊ ဆေးဝါးထုတ်လုပ်ခွင့်လိုင်စင်လျှောက်ထားခြင်း၊ အမျိုးသားဆေးဝါး ဥပဒေကို လိုက်နာဆောင်ရွက်ခြင်းများကိုပြုလုပ်သွားပါမည်။

၆။ ယခုအဆိုပြုတင်ပြသည့်လုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှုအသစ် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၇။ **ဆေးဝါးများကို Alvogen အမှတ်တံဆိပ်များ ဖြင့်ထုတ်လုပ်ဖြန့်ချီသွားရန် သက်ဆိုင်ရာကုမ္ပဏီ၏ Under Licence ရရှိပြီး ဖြစ်ပါသည်။**

ရို သေ လေး စား စွာ ဖြင့်

( ဦး ဖေ လှိုင် )
အုပ်ချုပ်မှုဒါရိုက်တာ
SILVER SHINE INTERNATIONAL CO., LTD.

NO.26,MAHAZAYA STREET,YAYKYAW QUARTER,PAZUNDAUNG TOWNSHIP,YANGON,MYANMAR.
Phone : 951 298708 297173 4412489 Email: ssi@baganmail.net.mm

